




# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
# ခွင့်ပြုမိန့်

ခွင့်ပြုမိန့် အမှတ်၊မနသ-၁၀၅၄/၂၀၁၅ ။ ၂၀၁၅ ခုနှစ်၊ မေ လ ၇ ရက်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂ (ခ) အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) **ရင်းနှီးမြှုပ်နှံသူ၏အမည်** ဦးမောင်မောင်ဋွေး

(ခ) **အဘ အမည်** ဦးလှစိန်

(ဂ) **နိုင်ငံသား/ အမျိုးသားမှတ်ပုံတင်အမှတ်** ၁၂/ကတတ(နိုင်) ၀၀၆၀၃၁

(ဃ) **နေရပ်လိပ်စာ** အမှတ်(၉/အေ)၊ ကမ္ဘောဇရိပ်သာလမ်း၊ ဗဟန်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး

(င) **ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့်အဖွဲ့အစည်း** Aung Htet Myet Company Limited [အောင်ထက်မြက်ကုမ္ပဏီလီမိတက်]

(စ) **ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်လုပ်ငန်းအမျိုးအစား** နိုင်ငံတကာအဆင့်မီ ရေဒီယယ်တာယာ (Radial Tyre) ထုတ်လုပ် ဖြန့်ဖြူး ရောင်းချခြင်း လုပ်ငန်း

(ဆ) **ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့်အရပ်ဒေသ(များ)** စက်မှုဝန်ကြီးဌာန၊ အမှတ်(၂) အကြီးစားစက်မှုလုပ်ငန်းပိုင် မှန်ပြည်နယ်၊ ဘီးလင်းမြို့၊ အမှတ်(၂၂) အကြီးစား စက်ရုံ (ဘီးလင်း)ရှိ မြေဧရိယာ (၁၂၉.၇၉)ဧက

(ဇ) **မတည်ငွေရင်းပမာဏ(ကျပ်)** ကျပ်သန်း ၂၅၃၆.၅၀ (US$ ၂.၄၈၃သန်း အပါအဝင် ကျပ်သန်းပေါင်း နှစ်ထောင့် ငါးရာ သုံးဆယ့် ခြောက်သန်း ငါးသိန်းခန့်)

ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်




**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**
**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်**

အမိန့်ကြော်ငြာစာအမှတ်၊ ၄၂ /၂၀၁၅(မနသ)
၂၀၁၅ ခုနှစ် မေလ ၇ ရက်

၁။ မြန်မာကုမ္ပဏီဖြစ်သော Aung Htet Myet Company Limited [အောင်ထက်မြက် ကုမ္ပဏီလီမိတက်]သည် စက်မှုဝန်ကြီးဌာန၊ အမှတ်(၂) အကြီးစားစက်မှု လုပ်ငန်းပိုင် မွန်ပြည်နယ်၊ ဘီးလင်းမြို့ရှိ အမှတ်(၂၂) အကြီးစားစက်ရုံ(ဘီးလင်း)၏ မြေဧရိယာ (၁၂၉.၇၉)ဧကရှိ မြေ၊ အဆောက်အအုံနှင့် စက်ပစ္စည်းများကို ငှားရမ်း၍ နိုင်ငံတကာအဆင့်မီ ရေဒီယယ် တာယာ (Radial Tyre) ထုတ်လုပ် ဖြန့်ဖြူး ရောင်းချခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြချက်ကို ၂၀၁၅ခုနှစ် ဧပြီလ ၃ ရက်နေ့တွင် ကျင်းပသော မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၆/၂၀၁၅) အစည်းအဝေး၌ တင်ပြခဲ့ရာ ခွင့်ပြုကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂(ခ)အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် Aung Htet Myet Company Limited [အောင်ထက်မြက် ကုမ္ပဏီလီမိတက်]ကို နိုင်ငံတကာအဆင့်မီ ရေဒီယယ်တာယာ (Radial Tyre) ထုတ်လုပ် ဖြန့်ဖြူး ရောင်းချခြင်း လုပ်ငန်းကို ဆောင်ရွက်နိုင်ရန်အတွက် ခွင့်ပြုမိန့်အမှတ်၊ မနသ-၁၀၅၄/၂၀၁၅ ကို ထုတ်ပေးလိုက်သည်။

၂။ Aung Htet Myet Company Limited [အောင်ထက်မြက် ကုမ္ပဏီလီမိတက်] အနေဖြင့် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအခန်း (၁၁) အရ ဝင်ငွေခွန် ကင်းလွတ်ခွင့်နှင့် အောက်ဖော်ပြပါ အခွန်ကင်းလွတ်ခွင့်နှင့်သက်သာခွင့်များကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့် ကြော်ငြာစာကို ထုတ်ပြန်လိုက်သည် -

(က) ဥပဒေပုဒ်မ ၂၀(က)အရ ထုတ်လုပ်မှု လုပ်ငန်း စီးပွားဖြစ် စတင်သော နှစ်အပါအဝင် တစ်ဆက်တည်း(၅)နှစ်အထိ ဝင်ငွေခွန် ကင်းလွတ်ခွင့်ပြုသည်။

(ခ) ဥပဒေပုဒ်မ ၂၀(ဂ)အရ လုပ်ငန်းမှ ရရှိသောအမြတ်ငွေကို ပြန်လည် ရင်းနှီးမြှုပ်နှံရန်အတွက် သီးသန့်ရန်ပုံငွေထား၍ တစ်နှစ်အတွင်း ယင်းလုပ်ငန်း၌ ပြန်လည် ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ်တွင် ဝင်ငွေခွန်ကင်းလွတ်ခွင့်(သို့မဟုတ်)သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်ကာလ ကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည် ရင်းနှီးမြှုပ်နှံသည့်အခါ လုပ်ငန်းအမှန်တကယ် အကောင်အထည်ဖော်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ ၂၀(ဃ)အရ လုပ်ငန်းက ထုတ်လုပ်သည့်ပစ္စည်းကို ပြည်ပသို့ တင်ပို့ရောင်းချလျှင် ထိုသို့တင်ပို့ရောင်းချ၍ရရှိသော အမြတ်ငွေပေါ်တွင် ၅၀ ရာခိုင်နှုန်းအထိ ဝင်ငွေခွန်သက်သာခွင့်ခံစားနိုင်ရန်အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့်(၅)နှစ်ခံစား

ပြီးနောက် လုပ်ငန်း၏ အမှန်တကယ် အကောင်အထည်ဖော်နိုင်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဃ) ဥပဒေပုဒ်မ ၂၀(စ)အရ ဝင်ငွေခွန်ကင်းလွတ်ခွင့်ခံစားပြီး တစ်ဆက်တည်း နှစ်နှစ်အတွင်း အမှန်တကယ် ပေါ်ပေါက်သည့် အရှုံးငွေကိုယင်းသို့ အရှုံးပေါ်ပေါက်သည့် နှစ်မှစ၍ တစ်ဆက်တည်း သုံးနှစ်ကာလအထိ သယ်ယူခုနှိမ်ခွင့်ကို လုပ်ငန်း အမှန်တကယ် အကောင်အထည်ဖော်မှုအခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(င) ဥပဒေပုဒ်မ ၂၀(ဆ)အရ လုပ်ငန်းစတင်တည်ဆောက်မှုကာလအတွင်း အမှန်တကယ် အသုံးပြုရန် လိုအပ်၍ ပြည်ပမှတင်သွင်းသော ယာဉ်ယန္တရား၊ စက်ပစ္စည်း၊ စက်ကိရိယာ၊ အသုံးအဆောင် တန်ဆာပလာ၊ စက်ကိရိယာအစိတ်အပိုင်း၊ စက်အရန်ပစ္စည်း၊ လုပ်ငန်းသုံးပစ္စည်းများအပေါ်တွင် အကောက်ခွန်နှင့် အခြား ပြည်တွင်းအခွန်အကောက်များ ကင်းလွတ်ခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(စ) ဥပဒေပုဒ်မ ၂၀(ဇ)အရ ဝင်ငွေခွန်စည်းကြပ်ရန်အလို့ငှာ ယာဉ်ယန္တရား၊ စက်ပစ္စည်း ကိရိယာ၊ အဆောက်အဦ သို့မဟုတ် လုပ်ငန်းသုံး အခြားမတည်ပစ္စည်းများ အပေါ်တွင် နိုင်ငံတော်ကသတ်မှတ်ထားသည့် ပစ္စည်းတန်ဖိုးလျော့တွက်နှုန်းများအတိုင်း တွက်ချက်ပြီး ပစ္စည်းတန်ဖိုးလျော့တွက်ငွေကို အမြတ်ငွေထဲမှ နုတ်ပယ်ခွင့်နှင့် စပ်လျဉ်း၍ ယင်းတန်ဖိုးလျော့နှုန်းထားများကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဆ) ဥပဒေပုဒ်မ ၂၀(ဈ)အရ လုပ်ငန်းတည်ဆောက်မှု ပြီးစီး၍ ပထမသုံးနှစ်အတွက် ကုန်ထုတ်လုပ်ရန် တင်သွင်းသည့် ကုန်ကြမ်းများအပေါ်တွင် အကောက်ခွန်ဖြစ်စေ၊ အခြား ပြည်တွင်း အခွန်အကောက်များ ဖြစ်စေ၊ နှစ်မျိုးလုံးကိုဖြစ်စေ ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဇ) ဥပဒေပုဒ်မ ၂၀(ည)အရ ရင်းနှီးမြှုပ်နှံမှုပမာဏ တိုးမြှင့်ပြီး မူလရင်းနှီးမြှုပ်နှံသည့် လုပ်ငန်းကို ခွင့်ပြုထားသည့် သက်တမ်းကာလအတွင်း အမှန်တကယ် အသုံးပြုရန် လိုအပ်၍ ပြည်ပမှတင်သွင်းသော ယာဉ်ယန္တရားများ၊ စက်ပစ္စည်းများ၊ စက်ကိရိယာများ၊ အသုံးအဆောင် တန်ဆာပလာများ၊ စက်ကိရိယာအစိတ်အပိုင်းများ၊ စက်အရန်ပစ္စည်းများ၊ လုပ်ငန်းသုံးပစ္စည်းများအပေါ်တွင် အကောက်ခွန်နှင့် အခြားပြည်တွင်း အခွန်အကောက်များ ကင်းလွတ်ခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဈ) ဥပဒေပုဒ်မ ၂၀(ဋ)အရ ပြည်ပသို့ တင်ပို့ရန် ထုတ်လုပ်သည့် ပစ္စည်းများအပေါ် ကုန်သွယ်လုပ်ငန်းခွန် ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၂၀(ဆ)အရ ပြည်ပမှ တင်သွင်းသည့် ယာဉ် ယန္တရား၊ စက်ပစ္စည်း၊ စက်ကိရိယာ၊ အသုံးအဆောင် တန်ဆာပလာ၊ စက်ကိရိယာ အစိတ်အပိုင်း၊ စက်အရန်ပစ္စည်း၊ လုပ်ငန်းသုံးပစ္စည်းများ တင်သွင်းရာတွင် တင်သွင်းမည့် ပစ္စည်း အမျိုးအစား၊ အရည်အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများ သင့်မြတ်မှု စသည်တို့နှင့် စပ်လျဉ်း၍

နိုင်ငံတကာ အသိအမှတ်ပြုထားသည့် စစ်ဆေးရေးကိုယ်စားလှယ် (Inspection Agency) ၏ စစ်ဆေးမှုဖြင့် ဆောင်ရွက်ရမည်။

၃။ Aung Htet Myet Company Limited [အောင်ထက်မြက် ကုမ္ပဏီလီမိတက်]သည် ဤခွင့်ပြုမိန့်အရ လုပ်ငန်းဆောင်ရွက်ရာတွင် မူလအဆိုပြုလွှာ၌ ဖော်ပြထားသည့် **ထုတ်လုပ်မှုရည်မှန်းချက်များကို အနိမ့်ဆုံးရည်မှန်းချက်များ** အဖြစ် ထားရှိဆောင်ရွက် အကောင်အထည်ဖော်ရမည်။

၄။ Aung Htet Myet Company Limited [အောင်ထက်မြက် ကုမ္ပဏီလီမိတက်] ဤအဆိုပြုလုပ်ငန်း၏ စာရင်းများကို သီးခြားပြုစု ထားရှိရမည်။

၅။ Aung Htet Myet Company Limited [အောင်ထက်မြက် ကုမ္ပဏီလီမိတက်] သည် အဆိုပြုလုပ်ငန်းဆောင်ရွက်ရာတွင် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ အတည်ပြုပြီးဖြစ်သော စက်မှုဝန်ကြီးဌာန၊ အမှတ်(၂) အကြီးစား စက်မှုလုပ်ငန်းပိုင် မြေ၊ အဆောက်အအုံနှင့် စက်ပစ္စည်းများအား ငှားရမ်းသည့် သဘောတူစာချုပ်ပါ စည်းမျဉ်းစည်းကမ်းများအတိုင်း လိုက်နာ ဆောင်ရွက်ရမည်။

၆။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် မြေငှားရမ်းခြင်း သက်တမ်းကာလမှာ မြေငှားစာချုပ် လက်မှတ်ရေးထိုးသည့် နေ့မှစတင်၍ ကနဦးနှစ်(၅၀)နှင့် သက်တမ်းတိုးမြှင့်မည့် ကာလမှာ တစ်ကြိမ်လျှင် (၁၀)နှစ်စီဖြင့် (၂)ကြိမ် ဖြစ်ပါသည်။ ထိုသို့ စာချုပ်သက်တမ်းကာလ တိုးမြှင့်ခြင်းအား ကော်မရှင်သို့ တင်ပြ၍ ခွင့်ပြုချက်ရရှိပြီးမှသာ အတည်ဖြစ်သည်။

၇။ Aung Htet Myet Company Limited [အောင်ထက်မြက် ကုမ္ပဏီလီမိတက်] သည် စက်ရုံ၊ မြေ၊ အဆောက်အဦနှင့် စက်ပစ္စည်းကိရိယာများ၊ အခြားပစ္စည်းများ၊ မော်တော်ယာဉ်ယန္တရားများအပါအဝင် ငှားရမ်းခြင်းအတွက် တစ်နှစ်လျှင် ကျပ်သန်း ၃၈၀(ကျပ်သန်း သုံးရာ့ ရှစ်ဆယ် တိတိ)အား စက်မှုဝန်ကြီးဌာန၊အမှတ်(၂)အကြီးစား စက်မှုလုပ်ငန်းသို့ ပေးသွင်းရမည်။

၈။ Aung Htet Myet Company Limited [အောင်ထက်မြက် ကုမ္ပဏီလီမိတက်] သည် အဆိုပြုလုပ်ငန်းကို ဆောင်ရွက်နိုင်ရန် အတွက် မွန်ပြည်နယ်၊ ဘီးလင်းမြို့ရှိ အမှတ်(၂၂) အကြီးစားစက်ရုံ(ဘီးလင်း)ကို အငှားချထားသူ စက်မှုဝန်ကြီးဌာန၊ အမှတ်(၂)အကြီးစားစက်မှုလုပ်ငန်းနှင့် အငှားချထားခြင်းခံရသူ Aung Htet Myet Company Limited [အောင်ထက်မြက်ကုမ္ပဏီလီမိတက်]တို့ ချုပ်ဆိုမည့် မြေ၊ အဆောက်အအုံနှင့် စက်ပစ္စည်းများငှားရမ်းခြင်း သဘောတူစာချုပ်ကို လက်မှတ်ရေးထိုး၍ ထိုက်သင့်သော တံဆိပ်ခေါင်းခွန်များအား ဆောင်ပြီးသည့်အခါ ယင်းသဘောတူ စာချုပ်မိတ္တူ (၅) စောင်ကို ဤ ကော်မရှင်သို့ မပျက်မကွက် ပေးပို့တင်ပြရမည်။

၉။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှုနှင့် စပ်လျဉ်း၍ နိုင်ငံတော် အစိုးရမှ မြေယာနှင့်ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းသည့် စည်းကမ်းချက်များကို တိကျစွာ လိုက်နာဆောင်ရွက်ရမည်။

၁၀။ Aung Htet Myet Company Limited [အောင်ထက်မြက် ကုမ္ပဏီလီမိတက်] သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများ လျော့နည်းစေရေးတို့အတွက် ပတ်ဝန်း ကျင်ထိခိုက်မှု ဆန်းစစ်ခြင်း (Environmental Impact Assessment-EIA) နှင့် ပတ်ဝန်း ကျင်စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan-EMP)တို့ကို ပြုလုပ် ဆောင်ရွက်ပြီး ယင်းဆောင်ရွက် ပြီးစီးမှုအခြေအနေကို ကော်မရှင်နှင့် ပတ်ဝန်းကျင် ထိန်းသိမ်းရေး နှင့် သစ်တောရေးရာဝန်ကြီးဌာနတို့သို့ ပေးပို့အစီရင်ခံရမည်။

၁၁။ Aung Htet Myet Company Limited [အောင်ထက်မြက် ကုမ္ပဏီလီမိတက်] သည် နိုင်ငံခြားသားကျွမ်းကျင်သူများ ငှားရမ်း ခွင့်ကိစ္စနှင့် စပ်လျဉ်း၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေဆိုင်ရာ လုပ်ထုံး လုပ်နည်းများ အခန်း(၉)၊ အပိုဒ် ၃၃ ပါ သတ်မှတ်ချက်များ နှင့်အညီ ဤကော်မရှင်သို့ သီးခြားတင်ပြ လျှောက်ထားရမည်။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် ပြည်တွင်း အလုပ်သမားများခန့်ထားရာတွင် အလုပ်သမား၊ အလုပ်အကိုင်နှင့် လူမှုဖူလုံရေး ဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြားရေး ဦးစီးဌာနနှင့် ညှိနှိုင်းဆောင်ရွက်ရမည်။ ထို့အပြင် အလုပ်ရှင်နှင့် အလုပ်သမား ဆက်ဆံရေး ပြေလည်စေရန် အလေးထားဆောင်ရွက်ရမည်။ လုပ်ငန်းခွင်သာယာရေးနှင့် စာရင်းဇယားများ စနစ်တကျရှိစေရေးအတွက် အဆိုပြုချက်တွင် တင်ပြထားသည့်အတိုင်း စီစဉ်ဆောင်ရွက်ရမည်။

၁၂။ Aung Htet Myet Company Limited [အောင်ထက်မြက် ကုမ္ပဏီလီမိတက်] သည် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရာ၌ မီးဘေးအန္တရာယ် မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် မီးဘေးအန္တရာယ် ထိန်းသိမ်း ကာကွယ်ရေး အစီအမံများကို ဝန်ခံကတိပြုထားသည့် အတိုင်း စနစ်တကျထားရှိ ဆောင်ရွက်ရမည်ဖြစ်ပြီး မီးသတ်ဦးစီးဌာန၏ နည်းဥပဒေများ၊ လုပ်ထုံး လုပ်နည်းများ ညွှန်ကြားချက်များနှင့် အမိန့်များကို တိကျစွာလိုက်နာ ဆောင်ရွက်ရမည်။ ထို့ပြင် ရေသိုလှောင်ကန်၊ မီးသတ်ဆေးဘူးများကဲ့သို့ မီးဘေးအန္တရာယ် ကြိုတင်ကာကွယ်မှု ဆောင်ရွက် ချက်များကို ဆောင်ရွက်ရမည်ဖြစ်ပြီး မီးငြိမ်းသတ်ရေး လုပ်ငန်းသုံးပစ္စည်းများကို အသုံးပြုတတ် စေရန် သင်တန်းများပေးရမည်။

၁၃။ ထို့ပြင် ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှုများ မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်းကာကွယ်ရေး အစီအမံများကို ဝန်ခံကတိပြုထား သည့်အတိုင်း စနစ်တကျထားရှိ ဆောင်ရွက်ရမည်ဖြစ်ပြီး နိုင်ငံတော်မှ ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေး မူဝါဒ၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေးဥပဒေ၊ အခြားသော ပတ်ဝန်းကျင် ထိန်းသိမ်းရေးဆိုင်ရာ နည်းဥပဒေများ၊ ညွှန်ကြားချက်များ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ တိကျစွာ လိုက်နာဆောင်ရွက်ရမည်။ ယင်းသို့ဆောင်ရွက်ထားမှုအခြေအနေကိုဤကော်မရှင်သို့မပျက်မကွက် အစီရင်ခံရမည်။

၁၄။ Aung Htet Myet Company Limited [အောင်ထက်မြက် ကုမ္ပဏီလီမိတက်] သည် ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေအရ မွန်ပြည်နယ်၊ ဘီးလင်းမြို့ စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေး ဦးစီးဌာနတွင် ပုဂ္ဂလိကစက်မှုလုပ်ငန်း မှတ်ပုံတင်ထားရှိဆောင်ရွက်ရမည်။

၁၅။ Aung Htet Myet Company Limited [အောင်ထက်မြက် ကုမ္ပဏီလီမိတက်] သည် ကနဦး လုပ်ငန်းဆောင်ရွက်မှု အစီရင်ခံ စာကို ဤခွင့်ပြုမိန့် ရရှိပြီး (သုံး)လအတွင်း ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။ ထို့အပြင် လုပ်ငန်းအကောင် အထည်ဖော်မှု အခြေအနေများကို သတ်မှတ်ထားသော ပုံစံဇယားများဖြင့် (သုံး)လတစ်ကြိမ် **မပျက်မကွက်** ပုံမှန်ပေးပို့ အစီရင်ခံရမည်။ အဆိုပြု လုပ်ငန်း၏ စီးပွားဖြစ်စတင် ဆောင်ရွက်သည့်နေ့ရက်ကို စီးပွားဖြစ်စတင်ပြီး (တစ်)လ အတွင်း ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၁၆။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ရင်းနှီးမြှုပ်နှံမှု ပြုလုပ်သည့် နေရပ်ဒေသ လိပ်စာ နှင့် ရင်းနှီးမြှုပ်နှံသူ၏ အဖွဲ့အစည်း၏ နေရပ်လိပ်စာ (ကုမ္ပဏီ၏ ရုံးခန်းလိပ်စာ နှင့် တယ်လီဖုန်းနံပါတ်)တို့ ပြောင်းလဲမှုရှိတိုင်း ဤကော်မရှင်သို့ **မပျက်မကွက်** တင်ပြ၍ အတည်ပြု ခွင့်ပြုချက်ကို ရယူရမည်။

၁၇။ Aung Htet Myet Company Limited [အောင်ထက်မြက် ကုမ္ပဏီလီမိတက်] သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်နှင့် သက်ဆိုင်ရာ ဝန်ကြီးဌာနများမှ ချမှတ်ထားသော တည်ဆဲ စည်းမျဉ်းစည်းကမ်း သတ်မှတ်ချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရမည်။

၁၈။ အဆိုပြုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ရမည် ဖြစ်သဖြင့် မည်သည့် နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းကမျှ ပိုင်ဆိုင်ခြင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်းမရှိစေရ။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ ထုတ်ပေးထားသော ခွင့်ပြုမိန့်၊ သက်ဆိုင်ရာဌာနများမှ ထုတ်ပေးထားသော လုပ်ငန်းလိုင်စင်များနှင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ခွင့်ပြုမိန့်ဖြင့် ပြည်ပမှတင်သွင်းသည့် ပစ္စည်းများကို တစ်ဆင့် လွှဲပြောင်းခြင်း၊ ရောင်းချခြင်းမပြုရ။ အကယ်၍ နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းက ပိုင်ဆိုင်ကြောင်း သို့မဟုတ် ခွင့်ပြုမိန့်၊ လုပ်ငန်းလိုင်စင် တို့ကို တစ်နည်းနည်းဖြင့် စီမံခန့်ခွဲကြောင်း သက်ဆိုင်ရာက စစ်ဆေးတွေ့ရှိလျှင် လိုအပ်သလို အရေးယူနိုင်ရေးအတွက် သက်ဆိုင်ရာအစိုးရ ဌာန၊ အဖွဲ့အစည်းနှင့် ညှိနှိုင်းဆောင်ရွက်မည့်အပြင် လုပ်ငန်း အဆိုပြုသူသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ ပုဒ်မ ၃၂(င)အရ နောင်တွင်မည်သည့် ခွင့်ပြုမိန့်မျှ ထုတ်ပေးမည်မဟုတ်သော နာမည်ပျက် စီးပွားရေး လုပ်ငန်းစာရင်း၌ ထည့်သွင်းခြင်းခံရမည်။

၁၉။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့်နေ့မှစ၍ (တစ်)နှစ်အတွင်း အဆိုပြုလုပ်ငန်းကို စတင် ဆောင်ရွက်ခြင်းမပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက်ပျက်ပြယ်ပြီး ဖြစ်သည်ဟု မှတ်ယူ ရမည်။

(ဇေယျာအောင်)
ဥက္ကဋ္ဌ

စာအမှတ်၊ ရက-၃/မ- ၁၁၅၈ /၂၀၁၅ (၆၂၆ - ၆ )
ရက်စွဲ၊ ၂၀၁၅ ခုနှစ် မေလ ၇ ရက်

**ဖြန့်ဝေခြင်း**

သမ္မတဦးစီးရုံး

ဒုတိယသမ္မတ(၁)ဦးစီးရုံး

ဒုတိယသမ္မတ(၂)ဦးစီးရုံး

ပြည်ထောင်စုအစိုးရအဖွဲ့ရုံး

ပြည်ထဲရေးဝန်ကြီးဌာန

ဆက်သွယ်ရေးနှင့် သတင်းအချက်အလက်နည်းပညာဝန်ကြီးဌာန

ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန

လျှပ်စစ်စွမ်းအားဝန်ကြီးဌာန

လူဝင်မှု ကြီးကြပ်ရေးနှင့် ပြည်သူ့အင်အား ဝန်ကြီးဌာန

စက်မှုဝန်ကြီးဌာန

စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန

ဘဏ္ဍာရေးဝန်ကြီးဌာန

အမျိုးသားစီမံကိန်းနှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန

ဆောက်လုပ်ရေးဝန်ကြီးဌာန

အလုပ်သမား၊ အလုပ်အကိုင်နှင့် လူမှုဖူလုံရေးဝန်ကြီးဌာန

မြန်မာနိုင်ငံတော် ဗဟိုဘဏ်

မွန်ပြည်နယ်အစိုးရအဖွဲ့

ညွှန်ကြားရေးမှူးချုပ်၊ မီးသတ်ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ဆက်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ဆက်သွယ်ရေးလုပ်ငန်း

ဦးဆောင်ညွှန်ကြားရေးမှူး၊ အမှတ်(၂) အကြီးစားစက်မှု လုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေးဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ လျှပ်စစ်ဓါတ်အား လုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေးနှင့် အမျိုးသားမှတ်ပုံတင်ရေး ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်မှုမြှင့်တင်ရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များ ဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အာမခံ လုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေး ဦးစီးဌာန

ဥက္ကဋ္ဌ၊ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံကုန်သည်များနှင့်စက်မှုလက်မှုလုပ်ငန်းရှင်များအသင်းချုပ်

အုပ်ချုပ်မှုဒါရိုက်တာ၊ Aung Htet Myet Company Limited [အောင်ထက်မြက် ကုမ္ပဏီ လီမိတက်]

ကုမ္ပဏီအမည်။ အောင်ထက်မြက် ကုမ္ပဏီလီမိတက်

လုပ်ငန်း ။ နိုင်ငံတကာအဆင့်မီ ရေဒီယယ်တာယာ (Radial Tyre) ထုတ်လုပ် ဖြန့်ဖြူး ရောင်းချခြင်း လုပ်ငန်း

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့် နေ့စွဲ | ပြန်ကြားချက် ရရှိသည့်နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုချက်လက်ခံရရှိခြင်း | ၂၇-၁-၂၀၁၅ | - | |
| ၂ | **သဘောထားမှတ်ချက်တောင်းခံခြင်း** | | | |
| | (က) စီမံကိန်းစိစစ်ရေးနှင့် တိုးတက်မှု အစီရင်ခံရေး ဦးစီးဌာန | ၁၁-၂-၂၀၁၅ | ၂၀-၂-၂၀၁၅ | |
| | (ခ) မွန်ပြည်နယ်အစိုးရအဖွဲ့ | ၁၁-၂-၂၀၁၅ | ၂၁-၂-၂၀၁၅ | |
| | (ဂ) ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန | ၁၁-၂-၂၀၁၅ | ၆-၃-၂၀၁၅ | |
| ၃ | အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ (၅/၂၀၁၅) သို့အစည်းအဝေး တင်ပြခြင်း | ၂-၂-၂၀၁၅ | | |
| ၄ | အဆိုပြုလွှာလက်ခံကြောင်းစာပေးပို့ခြင်း | ၃-၂-၂၀၁၅ | | |
| ၅ | ကုမ္ပဏီသို့ ဌာနများ၏ သဘောထား မှတ်ချက် နှင့်အညီ ပြင်ဆင် တင်ပြရန် အကြောင်းကြားခြင်း | ၂၇-၂-၂၀၁၅ | | |
| ၆ | စီမံကိန်းစိစစ်ရေးနှင့် တိုးတက်မှုအစီရင်ခံရေးဦးစီးဌာနသို့ ထပ်မံစိစစ်ချက် တောင်းခံခြင်း | ၂၇-၂-၂၀၁၅ | ၆-၃-၂၀၁၅ | |
| ၇ | ပြည်ထောင်စုရွှေ့နေချုပ်ရုံးသဘောထား မှတ်ချက်နှင့်အညီပြင်ဆင်ထားသည့် စာချုပ်(မူကြမ်း)ပေးပို့ခြင်း | ၁၉-၃-၂၀၁၅ | | |
| ၈ | ကုမ္ပဏီမှ ပြန်လည်ပြင်ဆင်၍ အဆိုပြုလွှာ ပေးပို့ခြင်း | ၂၀-၃-၂၀၁၅ | | |
| | **စုစုပေါင်းကြာမြင့်ရက် ၅၃ ရက်** | | | |

အကြောင်းအရာ။ အောင်ထက်မြတ် ကုမ္ပဏီလီမိတက်မှ နိုင်ငံတကာအဆင့်မီ ရေဒီယယ်တာယာ (Radial Tyre) ထုတ်လုပ် ဖြန့်ဖြူး ရောင်းချခြင်း လုပ်ငန်းအား မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်း ကိစ္စနှင့်စပ်လျဉ်းသည့် အဓိကအချက်အလက်များ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်<br>လုပ်ငန်းအဆိုပြုသူအမည် | အောင်ထက်မြတ် ကုမ္ပဏီလီမိတက်<br>ဦးမောင်မောင်ဌေး (အဘ-ဦးလှစိန်) |
| ၂။ | အဆိုပြုလုပ်ငန်းအမျိုးအစား | နိုင်ငံတကာအဆင့်မီ ရေဒီယယ်တာယာ (Radial Tyre) ထုတ်လုပ် ဖြန့်ဖြူး ရောင်းချခြင်း လုပ်ငန်း |
| ၃။ | လုပ်ငန်းတည်နေရာ | စက်မှုဝန်ကြီးဌာန၊ အမှတ်(၂) အကြီးစားစက်မှုလုပ်ငန်းပိုင် မြေဧရိယာ(၁၂၉.၇၉)ဧကရှိ အမှတ်(၂၂) အကြီးစား စက်ရုံ (ဘီးလင်း)၊ ဘီးလင်းမြို့၊ မွန်ပြည်နယ် |
| ၄။ | ရင်းနှီးမြှုပ်နှံမှုသက်တမ်း | ကနဦး နှစ် ၅၀ သက်တမ်းတိုး ၁၀နှစ် ၂ကြိမ် |
| ၅။ | **စုစုပေါင်းရင်းနှီးမြှုပ်နှံမှု** | **ကျပ် ၂၅၃၆.၅ သန်း ( US$ ၂.၄၈၃ သန်း အပါအဝင်)** |
| | - ငွေသား | ကျပ် ၅၀.၀ သန်း |
| | - ပရိဘောဂနှင့်လုပ်ငန်းသုံးပစ္စည်းများ | ကျပ် ၃.၀ သန်း |
| | - စက်နှင့်စက်ပစ္စည်း(ပြည်ပဝယ်) | ကျပ် ၂၄၈၃.၅ သန်း ( US$ ၂.၄၈၃ သန်း ) |
| ၆။ | တည်ဆောက်ရေးကာလ | (၁)နှစ် (၆)လ (ပြုပြင်မွမ်းမံခြင်းလုပ်ငန်း) |
| ၇။ | (၆)နှစ်မြောက်တွင် ထုတ်လုပ်နိုင်မှုနှင့် ရောင်းချမည့်ဈေးနှုန်း | (see table below) |

| အမျိုးအစား/အမည် | ထုတ်လုပ်မှု (Pcs) ပြည်တွင်း | ထုတ်လုပ်မှု (Pcs) ပြည်ပ | ရောင်းဈေးနှုန်း ပြည်တွင်း (Ks/Pcs) | ရောင်းဈေးနှုန်း ပြည်ပ (US$/Pcs) |
|---|---|---|---|---|
| Radial Tyre | ၄၄၀၀၀၀ | ၁၁၀၀၀၀ | ၂၈၅၀၀ | ၂၈.၅၀ |

| | | |
|---|---|---|
| ၈။ | ကုမ္ပဏီ၏ဝင်ငွေ(၆ နှစ်မြောက်)<br>အသုံးစရိတ်(၆ နှစ်မြောက်)<br>အသားတင်အမြတ်(၆ နှစ်မြောက်) | ကျပ် ၁၅၆၇၅.၀၀ သန်း<br>ကျပ် ၁၅၂၂၅.၇၇ သန်း<br>ကျပ် ၄၄၉.၂၃ သန်း |
| ၉။ | နိုင်ငံတော်မှ ရရှိမည့်အကျိုးအမြတ် (၆ နှစ်မြောက်)<br>ဝင်ငွေခွန်<br>ကုန်သွယ်လုပ်ငန်းခွန် | <br>ကျပ် ၁၄၉.၇၄ သန်း<br>ကျပ် ၇၈၃.၇၅ သန်း |
| ၁၀။ | အရင်းကြေကာလ | ၄ နှစ် ၁၁ လ |
| ၁၁။ | အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) | ၂၄.၅၆၇ % |
| ၁၂။ | ရောင်းချပုံ နည်းစနစ် | ပြည်တွင်း ၈၀%<br>ပြည်ပ ၂၀% |

| | | |
|---|---|---|
| ၁၃။ | ဝန်ထမ်းအင်အားစုစုပေါင်း | ၄၅၂ ဦး |
| | ပြည်တွင်း | *၄၅၀ ဦး (ပြည်တွင်းအနိမ့်ဆုံးဝန်ထမ်းတစ်ဦး၏ လစာကျပ် ၉၀,၀၀၀နှင့် အမြင့်ဆုံး ဝန်ထမ်းတစ်ဦး၏ လစာကျပ် ၂၃၀,၀၀၀) |
| | ပြည်ပ | ၂ ဦး (အချိန်ပိုင်းခန့်ထားမည်ဖြစ်သောကြောင့် လစာဖော်ပြထားခြင်းမရှိပါ) |
| | | ***စက်ရုံလွှဲပြောင်းယူစဉ်ကခန့်ထားသည့်အလုပ်သမားစာရင်းဖြစ်ပါသည်။** |
| ၁၄။ | ကုမ္ပဏီမှ ဆောင်ရွက်မည့် CSR | ကုမ္ပဏီ၏ အမြတ်ငွေထဲမှ CSR အတွက် ၂% သုံးစွဲမည်ဖြစ်ကြောင်း ဖော်ပြထားပါသည်။ (အမေရိကန်တစ်ဒေါ်လာလျှင်၁၀၀၀ ကျပ်နှုန်း ဖြင့်တွက်ချက်ထားပါသည်) |
| ၁၅။ | မီးဘေးကာကွယ်ရေး အစီအစဉ် | မီးဘေးအန္တရာယ် မဖြစ်ပွားစေရန်အတွက် ကြိုတင် ကာကွယ်တားဆီးမှု အစီအမံများ အနေဖြင့် စက်ရုံ အဆောက်အအုံတိုင်းတွင် မီးငြိမ်းသတ်ရန် မီးသတ်ဆေးဘူးများ ထားရှိခြင်း၊ စက်ရုံ၌ ရေသယ်ယာဉ် (၁) စီးနှင့် မီးသတ်ကား(၁)စီးတို့ကို ရေအပြည့်ထည့်ထားခြင်း၊စက်ရုံတွင် ကုန်ကြမ်းအဖြစ် သုံးစွဲသော ဓါတ်ပျံဆီများကိုလည်း စွမ်းအင်ဝန်ကြီးဌာန၊ ရေနံနှင့်သဘာဝဓါတ်ငွေ့လုပ်ငန်း၏ သတ်မှတ်ထားသည့် စည်းကမ်းချက်များနှင့်အညီ မြေအောက်သိုလှောင်ကန် တည်ဆောက်ပြီး စနစ်တကျ သိုလှောင်ထားရှိခြင်း၊ စက်ရုံမှဝန်ထမ်းများအား မီးဘေးကြိုတင်ကာကွယ်ရေးနှင့် စပ်လျဉ်း၍ ပညာရေးဟောပြောပွဲများ၊ သင်တန်းများ ပြုလုပ်သွားရန် စီမံချက်ရေးဆွဲထားကြောင်း တင်ပြထားပါသည်။ |

ကုမ္ပဏီအမည် - အောင်ထက်မြက် ကုမ္ပဏီလီမိတက်

အဖွဲ့အစည်းပုံသဏ္ဍာန် - မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု

လုပ်ငန်းအမျိုးအစား - နိုင်ငံတကာအဆင့်မီ ရေဒီယယ်တာယာ (Radial Tyre) ထုတ်လုပ်ဖြန့်ဖြူး ရောင်းချခြင်း လုပ်ငန်း

တည်နေရာ - စက်မှုဝန်ကြီးဌာန၊အမှတ်(၂)အကြီးစားစက်မှုလုပ်ငန်းပိုင် မွန်ပြည်နယ်၊ ဘီးလင်းမြို့ရှိ အမှတ်(၂၂) အကြီးစားစက်ရုံ (ဘီးလင်း)၏မြေဧရိယာ(၁၂၉.၇၉)ဧက

စုစုပေါင်းရင်းနှီးမြှုပ်နှံမှု - ကျပ် ၂၅၃၆.၅ သန်း ( US$ ၂.၄၈၃ သန်း အပါအဝင်)

အရင်းကြေကာလ - ၄ နှစ် ၁၁ လ

IRR - ၂၄.၅၆၇ %

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဇယားဖြင့် ပြုစုတင်ပြအပ်ပါသည်-

| စဉ် | အကြောင်းအရာ | Cost (ကျပ်သန်း) | Benefit (ကျပ်သန်း) |
|---|---|---|---|
| ၁ | နိုင်ငံဝန်ထမ်းလစာ | ၂.၀၄ (တစ်နှစ်) | - |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | - | ၁.၁၇ |
| ၃ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | ၁၂၄.၁၇ | - |
| ၅ | ဝင်ငွေခွန် | ၃၃၁.၉၄ | ၁၀၄၈.၁၉ |
| ၆ | လျှပ်စစ်မီးသုံးစွဲခ | - | ၁၅၃၀.၀၀ |
| ၇ | လုပ်ခလစာအပေါ်ဝင်ငွေခွန် | - | တစ်နှစ်ဝင်ငွေကျပ်သိန်း နှစ်ဆယ်ထက်ကျော်ပါက အခွန်ပေးရမည့် ဝန်ထမ်း(၂၀)ဦး |
| ၈ | CSR (၂ %) | - | ၃၅.၅၄ |
| ၉ | မြေငှားရမ်းခရငွေ | | ၁၉၀၀.၀၀ |
| ၁၀ | အလုပ်အကိုင်အခွင့်အလမ်း | | ပြည်တွင်း ဝန်ထမ်း (၄၅၀) ဦး အလုပ်အကိုင်ရရှိမည်ဖြစ်ပါသည်။ |
| | | **ကျပ် ၄၅၈.၁၅ သန်း** | **ကျပ် ၄၅၁၄.၉ သန်း** |
| | Cost : Benefit | ၁ : ၉ | |

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ရက-၃/မ-၁၁၅၈ /၂၀၁၅( ၅၂၂ )
ရက်စွဲ၊ ၂၀၁၅ ခုနှစ် ဧပြီ လ ၁ ရက်

**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့တင်ပြသည့်**

**အမှာစာ**

အကြောင်းအရာ။ **အောင်ထက်မြက် ကုမ္ပဏီလီမိတက်မှ နိုင်ငံတကာအဆင့်မီ ရေဒီယယ်တာယာ (Radial Tyre) ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းအားမြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေ နှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စ**

၁။ အောင်ထက်မြက် ကုမ္ပဏီလီမိတက်သည် စက်မှုဝန်ကြီးဌာန၊ အမှတ်(၂) အကြီးစားစက်မှုလုပ်ငန်းပိုင် မွန်ပြည်နယ်၊ ဘီးလင်းမြို့ရှိ အမှတ်(၂၂) အကြီးစားစက်ရုံ(ဘီးလင်း)၏ မြေဧရိယာ (၁၂၉.၇၉)ဧကတွင် စက်ရုံမြေ၊ အဆောက်အဦနှင့် စက်ပစ္စည်းများကို ငှားရမ်း၍ နိုင်ငံတကာအဆင့်မီ ရေဒီယယ် တာယာ (Radial Tyre) ထုတ်လုပ် ဖြန့်ဖြူး ရောင်းချခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးမောင်မောင်ဌေး (အဘ-ဦးလှစိန်)မှ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြုတင်ပြလာပါသည်။

၂။ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှု ပမာဏမှာ အမေရိကန်ဒေါ်လာ (၂.၄၈၃)သန်း အပါအဝင် စုစုပေါင်း ကျပ် (၂၅၃၆.၅)သန်းဖြစ်ပြီး အဆိုပြုလုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှု အခြေအနေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| | | | |
|---|---|---|---|
| (က) | ငွေသား | ကျပ် ၅၀.၀ | သန်း |
| (ခ) | ပရိဘောဂနှင့်လုပ်ငန်းသုံး ပစ္စည်းများ | ကျပ် ၃.၀ | သန်း |
| (ဂ) | စက်နှင့်စက်ပစ္စည်း (ပြည်ပဝယ်) | ကျပ် ၂၄၈၃.၅ | သန်း ( US$ ၂.၄၈၃ သန်း ) |
| | **စုစုပေါင်းရင်းနှီးမြှုပ်နှံမှု** | **ကျပ် ၂၅၃၆.၅** | **သန်း ( US$ ၂.၄၈၃ သန်း အပါအဝင်)** |

၃။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်းမှ ဝန်ထမ်း(၄၅၀) ဦးနှင့် ပြည်ပမှ အချိန်ပိုင်း ဝန်ထမ်း(၂)ဦး စုစုပေါင်း(၄၅၂)ဦး ခန့်ထားမည်ဖြစ်ပါသည်။ ပြည်တွင်းမှ အနိမ့်ဆုံးဝန်ထမ်း တစ်ဦး၏ လစာမှာ ကျပ် ၉၀,၀၀၀ နှင့် အမြင့်ဆုံး ဝန်ထမ်းတစ်ဦး၏ လစာမှာ ကျပ် ၂၃၀,၀၀၀ ဖြစ်ပါသည်။ ပြည်တွင်းဝန်ထမ်း(၄၅၀)ဦးတို့သည် အမှတ်(၂) အကြီးစားစက်မှုလုပ်ငန်းတွင် လုပ်ကိုင်နေသော ဝန်ထမ်းများ ဖြစ်ပြီး ကုမ္ပဏီမှ ၎င်းတို့ကို စက်ရုံတွင် ဆက်လက်၍ ခန့်ထားခြင်း ဖြစ်ပါသည်။

၄။ အဆိုပြုလုပ်ငန်းမှ ထွက်ရှိသော ကုန်ချောများကို ပြည်တွင်း ၈၀% နှင့် ပြည်ပ ၂၀% တင်ပို့မည်ဖြစ်ပါသည်။ပုံမှန်နှစ် (၆-နှစ်မြောက်)တွင် ထုတ်လုပ်နိုင်မှုနှင့် ရောင်းချမည့် ဈေးနှုန်းများမှာ အောက်ပါအတိုင်းဖြစ်ပါသည် -

| အမျိုးအမည် | ထုတ်လုပ်မှု (Pcs) | | ရောင်းဈေးနှုန်း | |
|---|---|---|---|---|
| | ပြည်တွင်း | ပြည်ပ | ပြည်တွင်း (Ks/Pcs) | ပြည်ပ (US$/Pcs) |
| Radial Tyre | ၄၄၀၀၀၀ | ၁၁၀၀၀၀ | ၂၈၅၀၀ | ၂၈.၅၀ |

၅။ လုပ်ငန်းကိုဆောင်ရွက်ခြင်းဖြင့် ကုမ္ပဏီမှ ပုံမှန်နှစ် (၆နှစ်မြောက်)တွင် ရရှိမည့်ဝင်ငွေနှင့် အသုံးစရိတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| | စဉ် | ကျပ်(သန်း) |
|---|---|---|
| (က) | ဝင်ငွေ | ၁၅၆၇၅.၀၀ |
| (ခ) | အသုံးစရိတ် | ၁၅၂၂၅.၇၇ |
| (ဂ) | အသားတင် အမြတ် | ၄၄၉.၂၃ |

၆။ နိုင်ငံတော်မှ ပုံမှန်နှစ် (၆ နှစ်မြောက်)တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ ဝင်ငွေခွန် ကျပ် (၁၄၉.၇၄)သန်း နှင့် ကုန်သွယ်လုပ်ငန်းခွန်မှာ ကျပ်(၇၈၃.၇၅)သန်း ရရှိမည်ဖြစ်ပါသည်။ အဆိုပြုလုပ်ငန်း၏ အရင်းကြေ ကာလမှာ ၄ နှစ် ၁၁ လ ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR)မှာ ၂၄.၅၆၇ % ဖြစ်ပါသည်။ အမေရိကန်တစ်ဒေါ်လာလျှင် ၁၀၀၀ ကျပ်နှုန်းဖြင့် တွက်ချက်ထားပါသည်။

၇။ အဆိုပြုချက် နှင့်စပ်လျဉ်း၍ မွန်ပြည်နယ်အစိုးရအဖွဲ့၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တော ရေးရာဝန်ကြီးဌာနတို့သို့ သဘောထားတောင်းခံခဲ့ရာ အောက်ပါအတိုင်း သဘောထား ပြန်ကြား လာပါသည်-

(က) **မွန်ပြည်နယ်အစိုးရအဖွဲ့**မှ ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် နေရာသည် နောင်တွင်ပြုလုပ်မည့်(သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းအား ထိခိုက်မှုမရှိခြင်း၊ နိုင်ငံတကာ အဆင့်မီ ရေဒီယယ်တာယာ ထုတ်လုပ်ရောင်းချခြင်းဖြင့် ဒေသခံရာဘာ တောင်သူများ Regularများအတွက် ရရှိခြင်း၊ လုပ်ငန်းဆောင်ရွက်မှုကြောင့် မြို့နယ်၊ ဒေသ အလုပ်အကိုင် အခွင့်အလမ်းများ ရရှိလာမည်ဖြစ်ပြီး ဒေသစီးပွားရေး ကုန်သွယ်မှု၊ ဝန်ဆောင်မှု ကဏ္ဍများ ဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူပြုခြင်းနှင့် လုပ်ငန်း လည်ပတ်ခြင်းဖြင့် စွန့်ပစ်ပစ္စည်းများ မထွက်ရှိဘဲ သဘာဝပတ်ဝန်းကျင် ထိခိုက်မှုမရှိခြင်းနှင့် အနီးဆုံးလူနေကျေးရွာနှင့် (၂)မိုင်အကွာတွင် တည်ရှိပါသဖြင့်(၁၉-၂-၂၀၁၅) ရက်နေ့ မွန်ပြည်နယ် အစိုးရအဖွဲ့အစည်းအဝေး အမှတ်စဉ် (၄/၂၀၁၅) ဆုံးဖြတ်ချက် အပိုဒ်(၄၆)အရ သတ်မှတ်စည်းမျဉ်းစည်းကမ်းများနှင့်အညီ ဆောင်ရွက်မည်ဆိုပါက ကန့်ကွက်ရန်မရှိကြောင်းနှင့် ဆောင်ရွက်သင့်သော လုပ်ငန်းတစ်ခု ဖြစ်ပါကြောင်း သဘောထား ပြန်ကြားထားပါသည်။ (နောက်ဆက်တွဲ-က)

(ခ) **ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန**မှ အဆိုပြုလုပ်ငန်းဆောင်ရွက်ခွင့်ပြုရန်ကိစ္စနှင့်ပတ်သက်၍ အောက်ဖော်ပြပါအချက်များအတိုင်းလိုက်နာဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားထားပါသည်-

(၁) လုပ်ငန်းကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက် ပျက်စီးမှုများလျော့နည်းစေရန်အတွက် လုပ်ငန်းစီမံချက်များ ရေးဆွဲချမှတ်ခြင်း၊ လုပ်ငန်းလည်ပတ်ခြင်းနှင့် ထုတ်လုပ်ခြင်း အဆင့်ဆင့်တို့အတွက် စီမံကိန်းဆိုင်ရာ အချက်အလက်များ ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် နည်းလမ်းနှင့် အစီအမံများ ထည့်သွင်းဆောင်ရွက်ရန်။

(၂) စွန့်ပစ်ပစ္စည်း/ အရည်များ စွန့်ပစ်ရာတွင် သတ်မှတ်ထားသည့် စံချိန်စံညွှန်းများ၊ နည်းစနစ်များနှင့်အညီ စွန့်ပစ်ရန်။

(၃) လုပ်ငန်းကြောင့် ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှုမရှိစေရေး၊ ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှု အနည်းဆုံး ဖြစ်စေရေးတို့အတွက် ပတ်ဝန်းကျင် ထိခိုက်မှုဆန်းစစ်ခြင်း (Environmental Impact Assessment-EIA) အစီရင်ခံစာတွင် ဖော်ပြပါရှိသည့် ပတ်ဝန်းကျင်ထိခိုက်မှု လျော့နည်းစေရန် ဆောင်ရွက်မည့် အစီအမံများကို စီမံကိန်းအကောင်အထည်ဖော်ဆောင်သူမှ လိုက်နာဆောင်ရွက်မည် ဖြစ်ကြောင်း ကတိဝန်ခံချက်ကို EIA အစီရင်ခံစာတွင် ထည့်သွင်းဖော်ပြရန်။

(၄) အထက်ပါလေ့လာဆန်းစစ်မှုရလဒ်များကို အခြေခံ၍ ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှုအနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ်၊ စွန့်ပစ်ပစ္စည်း/စွန့်ပစ်အရည်များ စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြည့်လေ့လာမည့် အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှုလျော့ပါးရေးလုပ်ငန်းများဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေစသည်တို့ပါဝင်သည့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan- EMP)ကို ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်။

(၅) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများ၊ စည်းမျဉ်းစည်းကမ်းများ နှင့်အညီ လိုက်နာကျင့်သုံး အကောင်အထည်ဖော် ဆောင်ရွက်သွားရန်။ **(နောက်ဆက်တွဲ - ခ)**

**(ကုမ္ပဏီမှ အထက်ပါ သဘောထား မှတ်ချက်နှင့်အညီ ပတ်ဝန်းကျင် ထိန်းသိမ်းရေးအတွက် ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်း** (Environmental Impact Assessment-EIA) နှင့် **ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ်** (Environmental Management Plan- EMP)အစီရင်ခံစာတို့အား Green Enviro Services Ltd. အဖွဲ့အားငှားရမ်း၍ ဆောင်ရွက်နေပြီး အဆိုပါ အစီရင်ခံစာတို့အား မေလအတွင်းတွင် ပေးပို့တင်ပြသွားမည်ဖြစ်ပါကြောင်း ဝန်ခံကတိတင်ပြထားပါသည်။)

၈။ ငွေကြေးအထောက်အထားအဖြစ် မြန်မာ့ရင်းနှီးမြှုပ်နှံမှုနှင့် ကူးသန်းရောင်းဝယ်ရေးဘဏ်တွင် အောင်ထက်မြက်ကုမ္ပဏီအမည်ဖြင့် (၃၀.၁.၂၀၁၅)နေ့တွင် ငွေလက်ကျန် အမေရိကန်ဒေါ်လာ (၄၆၅၈၈၂.၆၇) ရှိကြောင်းတင်ပြထားပါသည်။

၉။ ယင်းလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်ပြီး နိုင်ငံခြားမှ မည်သူမျှ ပိုင်ဆိုင်မှုမရှိကြောင်း၊ လုပ်ငန်းအသစ်ဖြစ်ကြောင်း၊ နိုင်ငံတော်အစိုးရမှ မြေယာနှင့်ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းထားသည့် စည်းကမ်းချက်များ၊ ညွှန်ကြားချက်များနှင့်အညီ လိုက်နာဆောင်ရွက်မည် ဖြစ်ပါကြောင်း၊ ပတ်ဝန်းကျင်လေထု၊ ရေထုနှင့်မြေထုတို့ ညစ်ညမ်းမှုမဖြစ်ပွားစေရန်အတွက် လိုအပ်သောအစီအမံများ၊ မီးဘေးကြိုတင်ကာကွယ်မှုများ ဆောင်ရွက်မည်ဖြစ်ပါကြောင်း၊ ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေအရ ပြည်နယ်/တိုင်း စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာနတွင် မှတ်ပုံတင်ထားရှိမည်ဖြစ်ပါကြောင်း၊ တစ်နှစ်လျှင် ဝင်ငွေ ကျပ် ၂၀ သိန်းအထက် ရရှိသော ဝန်ထမ်းများ၏ လစာမှ ဝင်ငွေခွန်ကို ကုမ္ပဏီမှ တာဝန်ယူဖြတ်တောက်၍ အခွန်ပေးဆောင်မည် ဖြစ်ကြောင်း ဝန်ခံကတိပြုထားပါသည်။

၁၀။ ဝန်ထမ်းသက်သာ ချောင်ချိရေးနှင့် လုပ်ငန်းခွင် သာယာရေးအတွက် ဝန်ထမ်းများအား နေ့လည်စာ စီစဥ်ဆောင်ရွက်ပေးခြင်း၊ နေ့ထူးနေ့မြတ်များတွင် စက်ရုံ၌ ပျော်ပွဲရွှင်ပွဲများ၊ အားကစားပြိုင်ပွဲများ ကျင်းပပေးခြင်း၊ ဝန်ထမ်းများ၏ သားသမီးများကို ကျောင်းစရိတ် ထောက်ပံ့ပေးခြင်း၊ စက်ရုံအနီးပတ်ဝန်းကျင်ရှိ စာသင်ကျောင်းများတွင် ကျောင်းအသုံးအဆောင်ပစ္စည်းများ လှူဒါန်းပေးခြင်းနှင့် ဝန်ထမ်းများ၏ သာရေးနာရေး ကိစ္စရပ်များတွင် စက်ရုံ၏ လူမှုအကျိုးပြုလုပ်ငန်း (Corporate Social Responsibility -CSR) ရန်ပုံငွေမှ ထောက်ပံ့ပေးမည်ဖြစ်ကြောင်းနှင့် ကုမ္ပဏီမှ နှစ်စဉ် အသားတင်အမြတ်၏(၂)%ကို လူမှုအကျိုးပြုလုပ်ငန်း (Corporate Social Responsibility -CSR) အတွက် အသုံးပြုမည်ဖြစ်ပါကြောင်း တင်ပြထားပါသည်။

၁၁။ လုပ်ငန်းဆောင်ရွက်ရာတွင် လျှပ်စစ်ဓါတ်အားကို မဟာဓါတ်အားလိုင်းမှ ရယူသုံးစွဲမည်ဖြစ်ပြီး မဟာဓါတ်အားလိုင်းမှ လျှပ်စစ်ဓါတ်အား မရရှိသည့်အချိန်တွင် ကိုယ်ပိုင်ထရန်စဖော်မာများဖြင့် ကုန်ထုတ်လုပ်မှု စဥ်ဆက်မပြတ်စေရေးအတွက် ဆောင်ရွက်သွားမည် ဖြစ်ပါကြောင်း ကုမ္ပဏီမှ တင်ပြထားပါသည်။

၁၂။ အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ ၂၀၁၅ ခုနှစ် ဖေဖော်ဝါရီ လ ၂ ရက်နေ့တွင် ကျင်းပသော (၅/၂၀၁၅) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

၁၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအခန်း(၁၁)၊ ပုဒ်မ ၂၀(က၊ ဂ၊ ဃ၊ စ၊ ဆ၊ ဇ၊ ဈ၊ ည၊ ဋ) အရ အခွန်အကောက် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့်များကို တင်ပြလျှောက်ထားလျှင် ခွင့်ပြုနိုင်မည်ဖြစ်ပါမည်။

၁၄။ **စိစစ်တင်ပြချက်**

(က) စက်မှုဝန်ကြီးဌာန၊ အမှတ်(၂)အကြီးစားစက်မှုလုပ်ငန်း ကြီးကြပ်မှုရှိ အမှတ်(၂၂) အကြီးစား စက်ရုံ(ဘီးလင်း) အား (၁၇-၇-၂၀၁၄)ရက်နေ့တွင် ကျင်းပပြုလုပ်သော ပြည်ထောင်စု အစိုးရအဖွဲ့အစည်းအဝေး အမှတ်စဥ်(၁၄/၂၀၁၄)၏ သဘောတူ

ခွင့်ပြုချက်အရ အောင်ထက်မြက် ကုမ္ပဏီလီမိတက်သို့ ငှားရမ်းဆောင်ရွက်ခဲ့ခြင်း ဖြစ်ပါသည်။

(က) စက်မှုဝန်ကြီးဌာန၊ အမှတ်(၂)အကြီးစားစက်မှုလုပ်ငန်းနှင့် အောင်ထက်မြက် ကုမ္ပဏီလီမိတက်တို့ ချုပ်ဆိုသော အမှတ်(၂၂) အကြီးစား စက်ရုံ(ဘီးလင်း) အား ငှားရမ်းဆောင်ရွက်သည့် သဘောတူစာချုပ်အပေါ် သက်တမ်းတိုးမြှင့် လုပ်ကိုင်သည့် ပထမအကြိမ် ပြင်ဆင်ချက်သဘောတူစာချုပ် (မူကြမ်း)အား ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက်နှင့်အညီ ပြင်ဆင်တင်ပြထားပါသည်။

(ခ) အမှတ်(၂၂) အကြီးစား စက်ရုံ(ဘီးလင်း)အား ငှားရမ်းမည့် အချိန်ကာလမှာ ၅၀နှစ်နှင့် သက်တမ်း တစ်ကြိမ်လျှင် (၁၀)နှစ်ဖြင့် (၂)ကြိမ် သက်တမ်းတိုးငှားရမ်းနိုင်ကြောင်းစာချုပ်တွင်ဖော်ပြထားပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၅။ အောင်ထက်မြက် ကုမ္ပဏီလီမိတက်သည် စက်မှုဝန်ကြီးဌာန၊ အမှတ်(၂) အကြီးစားစက်မှုလုပ်ငန်းပိုင် မြေဧရိယာ(၁၂၉.၇၉)ဧကရှိ အမှတ်(၂၂) အကြီးစားစက်ရုံ (ဘီးလင်း)၊ ဘီးလင်းမြို့နယ်၊ မွန်ပြည်နယ်ရှိ စက်ရုံမြေ၊ အဆောက်အဦနှင့် စက်ပစ္စည်းများကို ငှားရမ်း၍ နိုင်ငံတကာ အဆင့်မီ ရေဒီယယ်တာယာ (Radial Tyre) ထုတ်လုပ် ဖြန့်ဖြူး ရောင်းချခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုရန် သဘောတူ-မတူ။

ဥက္ကဌ(ကိုယ်စား)
(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ/မျှောစာတွဲ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

ပြည်နယ်အစိုးရအဖွဲ့

မွန်ပြည်နယ်




စာအမှတ် ၊ ၃၀၀ / ၁ - ၁၈/ ၀၁၅ (မွန်)

ရက်စွဲ ၊၂၀၁၅ ခုနှစ်၊ ဖေဖော်ဝါရီလ၂၁ရက်

M-342
23/2

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ရန်ကင်းမြို့နယ် ၊ ရန်ကုန်တိုင်းဒေသကြီး

အကြောင်းအရာ။ **သဘောထားမှတ်ချက် တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၁-၂-၂၀၁၅) ရက်စွဲပါစာအမှတ်၊ ရက-၃/ မ - ၁၁၅၈ / ၂၀၁၅ (၂၂၈)

၁။ **အောင်ထက်မြက် ကုမ္ပဏီလီမိတက်သည်** စက်မှုဝန်ကြီးဌာန ၊ အမှတ်(၂) အကြီးစားစက်မှုလုပ်ငန်းပိုင် မြေဧရိယာ( ၁၂၉. ၇၉) ဧက ၌ အမှတ်(၂၂) အကြီးစားစက်ရုံ (ဘီးလင်း)ရှိ စက်ရုံမြေ၊ အဆောက်အဦ နှင့် စက်ပစ္စည်းများကို ငှားရမ်း၍ နိုင်ငံတကာအဆင့်မီ ရေဒီယယ် တာယာ (Radial Tyre) ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ နှင့်အညီဆောင်ရွက်ခွင့်ပြုပါရန် **အောင်ထက်မြက်ကုမ္ပဏီ မှ** မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြခဲ့ခြင်းအပေါ် မွန်ပြည်နယ်အစိုးရ မှ သဘောထားပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် ပေးပို့ခဲ့ပါသည်။

၂။ သို့ဖြစ်ပါ၍ မွန်ပြည်နယ် ၊ ဘီးလင်းမြို့နယ်၊ အမှတ်(၂) အကြီးစားစက်မှုလုပ်ငန်းပိုင် မြေဧရိယာ (၁၂၉. ၇၉)ဧက တွင် အမှတ်(၂၂) အကြီးစားစက်ရုံ (ဘီးလင်း) ရှိ စက်ရုံမြေ အဆောက်အဦ နှင့် စက်ပစ္စည်းများ ငှားရမ်း၍ နိုင်ငံတကာအဆင့်မှီ ရေဒီယယ်တာယာထုတ်လုပ်ဖြန့်ဖြူးခြင်း လုပ်ငန်း အတွက် **မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် အောက်ထက်မြက် ကုမ္ပဏီ မှ** ဆောင်ရွက်မည်ဖြစ်ပါသဖြင့် နောင်တွင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်မှုမရှိခြင်း ၊ နိုင်ငံတကာအဆင့်မီ ရေဒီယယ်တာယာ ထုတ်လုပ်ရောင်းချခြင်း ဖြင့် ဒေသခံ ရာဘာတောင်သူများ Ragular များအတွက်ရရှိခြင်း ၊ လုပ်ငန်း ဆောင်ရွက်မှုကြောင့် မြို့နယ် ၊ ဒေသ အလုပ်အကိုင်အခွင့် အလမ်းများ ရရှိလာမည် ဖြစ်ပြီး ဒေသစီးပွားရေး ကုန်သွယ်မှု ၊

Thaung Nu (II)
40

ဝန်ဆောင်မှုကဏ္ဍများ ဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူပြုခြင်း နှင့် လုပ်ငန်းလည်ပတ်ခြင်းဖြင့် စွန့်ပစ်ပစ္စည်းများ မထွက်ရှိဘဲ သဘာဝပတ်ဝန်းကျင်ထိခိုက်မှုမရှိခြင်း နှင့် အနီးဆုံးလူနေကျေးရွာနှင့် (၂)မိုင် အကွာတွင် တည်ရှိပါသဖြင့် ( ၁၉-၂-၂၀၁၅)ရက်နေ့ မွန်ပြည်နယ်အစိုးရအဖွဲ့အစည်းအဝေး (၄/၂၀၁၅) ၊ ဆုံးဖြတ်ချက်အပိုဒ် (၄၆) အရ သတ်မှတ်စည်းမျဉ်းစည်းကမ်းများ နှင့် အညီ ဆောင်ရွက်မည်ဆိုပါက **ကန့်ကွက်ရန်မရှိကြောင်း နှင့် ဆောင်ရွက်သင့်သော လုပ်ငန်းတစ်ခုဖြစ်ပါကြောင်း သဘောထား ပြန်ကြားပါသည်။**

အုန်းမြင့်
ပြည်နယ်ဝန်ကြီးချုပ်

မိတ္တူကို

ပြည်ထောင်စုအစိုးရအဖွဲ့ရုံး ၊ နေပြည်တော်
**အောင်ထက်မြက် ကုမ္ပဏီလီမိတက်**
ရုံးလက်ခံစာတွဲ
မျှော့စာတွဲ




ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ပြည်ထောင်စုဝန်ကြီးရုံး


M-444
6/3/15

စာအမှတ် ၂/၂၂၀(ခ)(၆)/( ၁၅၇၈ /၂၀၁၅)
ရက်စွဲ ၂၀၁၅ ခုနှစ် ၊ မတ်လ ၃ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ သဘောထားမှတ်ချက်ပြန်ကြားခြင်း

ရည်ညွှန်းချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၁-၂-၂၀၁၅ ရက်စွဲပါစာအမှတ်၊ ရက-၃/မ-၁၁၅၈/၂၀၁၅(၂၂၈-ချ)

၁။ အထက်အကြောင်းအရာပါ ကိစ္စနှင့်ပတ်သက်၍ အောင်ထက်မြက်ကုမ္ပဏီလီမိတက်သည် စက်မှုဝန်ကြီးဌာန ၊ အမှတ်(၂)အကြီးစားစက်မှုလုပ်ငန်းပိုင် မြေဧရိယာ(၁၂၉.၇၉) ဧကေ၌ အမှတ်(၂၂) အကြီးစားစက်ရုံ (ဘီးလင်း) ရှိ စက်ရုံမြေ၊ အဆောက်အဦနှင့် စက်ပစ္စည်းများကို ငှားရမ်း၍ နိုင်ငံတကာအဆင့်မီ ရေဒီယယ်တာယာထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ကိစ္စနှင့်စပ်လျဉ်း၍ စိစစ်ပြီး ဌာနဆိုင်ရာ သဘောထားမှတ်ချက်ကို ပြန်ကြားအပ်ပါသည်။

၂။ ပူးတွဲပေးပို့လာသည့် အဆိုပြုလွှာတွင် အမှတ်(၂၂) အကြီးစားစက်ရုံ (ဘီးလင်း) ရှိ စက်ပစ္စည်းများအား B.O.T စနစ်ဖြင့် ငှားရမ်းကာ မွမ်းမံပြင်ဆင်ခြင်းနှင့်စက်အသစ်တပ်ဆင်ခြင်းတို့ကိုဆောင်ရွက်ပြီး နိုင်ငံတကာအဆင့်မီ ရေဒီယယ်တာယာ (Radial Tyre) များ ထုတ်လုပ်ဖြန့်ဖြူးရောင်းချသွားမည်ဖြစ်ကြောင်း၊ ရင်းနှီးမြှုပ်နှံမှုကာလမှာ နှစ်(၇၀)ဖြစ်ကြောင်း၊ စီမံကိန်းအား အဆင့်(၂)ဆင့်ဖြင့် ဆောင်ရွက်မည်ဖြစ်ပြီး စီမံကိန်းအဆင့်(၁)ဖြစ်သည့် ၂၀၁၅ ခုနှစ်မှ ၂၀၂၀ ခုနှစ်အတွင်း တစ်နှစ်လျှင်တာယာ (၃၀၀၀၀၀) လုံး ထုတ်လုပ်၍ တစ်နှစ်ထက် တစ်နှစ်တိုးမြှင့်ထုတ်လုပ်မည်ဖြစ်ပြီး စီမံကိန်းအဆင့်(၂)ဖြစ်သည့် ၂၀၂၀ ခုနှစ် မှ ၂၀၂၅ ခုနှစ်အတွင်း ရင်းနှီးမြှုပ်နှံမှုတိုးမြှင့်ကာ ဆိုင်ကယ်တာယာအပါအဝင် တာယာအမျိုးမျိုး စုစုပေါင်း (၈၀၀၀၀၀)လုံး ထုတ်လုပ်သွားရန် ရည်မှန်းထားကြောင်း၊ တစ်နှစ်အတွက် ရော်ဘာကုန်ကြမ်းလိုအပ်ချက်မှာ ပထမနှစ်တွင် (၁၅၁၅၈၉) ကီလိုဂရမ်၊ ဒုတိယနှစ်တွင် (၆၃၂၃၀၇) ကီလိုဂရမ်၊ တတိယနှစ်တွင် (၇၂၅၇၄၇)ကီလိုဂရမ် ၊ စတုတ္ထနှစ်တွင် (၈၁၁၉၃၀)ကီလိုဂရမ် တို့ဖြစ်ပြီး အသုံးပြုမည့် ကုန်ကြမ်းပစ္စည်းနှင့် ထုတ်လုပ်မှုလုပ်ငန်းစဉ်အဆင့်ဆင့်၊ စက်ရုံလွှဲပြောင်းလက်ခံချိန်တွင် ခန့်ထားသည့် ဝန်ထမ်းစာရင်း၊ လျှပ်စစ်ဓာတ်အားနှင့် လောင်စာဆီသုံးစွဲမှု ၊ စက်ရုံဝန်ထမ်းများ သက်သာချောင်ချိရေး နှင့် လုပ်ငန်းခွင်သာယာရေးစီမံချက် ၊ မီးဘေးကြိုတင်ကာကွယ်ရေးစီမံချက် တို့ကိုဖော်ပြထားပြီး ပတ်ဝန်းကျင်ထိန်းသိမ်းခြင်းအနေဖြင့် အလုပ်ရုံအားလုံးတွင် လေထုတ်စက် (Exhaust Fan) များတပ်ဆင်ခြင်း ၊ စက်ရုံမှထွက်ရှိသည့် အမှုန်အမွှားများကို သန့်စင်ရန် Silo System ဖြင့် ချိတ်ဆက်အသုံးပြုခြင်း၊ ခေတ်မီနည်းပညာသုံးစက်ပစ္စည်းများ( Carbon Black & Filter Automatic Feeding & Weighting System )

ကို အသုံးပြုခြင်း ၊ ရာဘာဖြတ်စညှပ်စများကိုလည်း ပုဂ္ဂလိက ဖိနပ်လုပ်ငန်းများတွင် အသုံးပြုရန် ပြန်လည်ရောင်းချမည်ဖြစ်ကြောင်း ဖော်ပြထားသည်ကို စိစစ်တွေ့ရှိရပါသည်။

၃။ တာယာထုတ်လုပ်ရာတွင် ပတ်ဝန်းကျင်နှင့် လူတို့၏ကျန်းမာရေးကို ထိခိုက်စေနိုင်သော ဓာတုပစ္စည်းများဖြစ်သည့် သားရေတု (Synthetic Rubber)၊ ကာဗွန် (Carbon Black)၊ ကော်စေး (Resin) ၊ Silica ၊ Aromatic Oil/Paraffin Oil ၊ Stearic Acid ၊ Rubber Wax စသည်တို့ကို ကုန်ကြမ်းပစ္စည်းများအဖြစ် အသုံးပြုမည်ဖြစ်ပါသည်။ တာယာတွင်ပါဝင်သည့် ဟိုက်ဒရိုကာဗွန်သည် မြေထုအတွင်း စွန့်ပစ်ပါက ပျက်စီးရန် ကြာမြင့်၍ မြေထု ညစ်ညမ်းမှု၊ တာယာများကို မီးလောင်ပါက Dioxin, Carbon dioxide, Carbon monoxide အစရှိသည့် ဓါတ်ငွေ့များထွက်ရှိ၍ လေထုညစ်ညမ်းမှု၊ ထို့အပြင် စက်ရုံတွင် အသုံးပြုသည့် ရေပူများအား စက်ရုံအနီးရေထုအတွင်းသို့ တိုက်ရိုက်စွန့်ထုတ်ပါက ရေထုညစ်ညမ်းမှု နှင့် ရေနေသတ္တဝါများအား ထိခိုက်စေနိုင်မှု စသည့်ပတ်ဝန်းကျင် နှင့် ကျန်းမာရေးဆိုင်ရာ ထိခိုက်မှုများ ဖြစ်ပေါ်နိုင်ပါသည်။

၄။ သို့ဖြစ်၍အောင်ထက်မြက်ကုမ္ပဏီလီမိတက်သည် စက်မှုဝန်ကြီးဌာန၊ အမှတ်(၂) အကြီးစားစက်မှုလုပ်ငန်းပိုင် မြေဧရိယာ (၁၂၉.၇၉)ဧက၌ အမှတ်(၂၂) အကြီးစားစက်ရုံ (ဘီးလင်း) ရှိ စက်ရုံမြေ၊ အဆောက်အဦနှင့် စက်ပစ္စည်းများကို ငှားရမ်း၍ နိုင်ငံတကာအဆင့်မီ ရေဒီယယ် တာယာထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ကိစ္စနှင့်ပတ်သက်၍ အောက်ပါအတိုင်း ဆောင်ရွက်ရန် လိုအပ်မည် ဖြစ်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်-

(က) တာယာထုတ်လုပ်ခြင်းလုပ်ငန်းကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်ပျက်စီးမှုများ လျော့နည်းစေရန်အတွက် လုပ်ငန်းစီမံချက်များ ရေးဆွဲချမှတ်ခြင်း ၊ လုပ်ငန်းလည်ပတ်ခြင်း နှင့် ထုတ်လုပ်ခြင်း အဆင့်ဆင့်တို့အတွက် စီမံကိန်းဆိုင်ရာ အချက်အလက်များ ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် နည်းလမ်းနှင့်အစီအမံများ ထည့်သွင်းဆောင်ရွက်ရန်၊

(ခ) စွန့်ပစ်ပစ္စည်း/အရည်များစွန့်ပစ်ရာတွင် သတ်မှတ်ထားသည့် စံချိန်စံညွှန်းများ၊ နည်းစနစ်များနှင့်အညီ စွန့်ပစ်ရန်၊

(ဂ) အဆိုပြုစီမံကိန်းလုပ်ငန်းကြောင့် ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှု မရှိစေရေး၊ ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှု အနည်းဆုံးဖြစ်စေရေးတို့အတွက် ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (Environmental Impact Assessment - EIA) ကို ဆောင်ရွက်ရန်နှင့် EIA အစီရင်ခံစာတွင်ဖော်ပြပါရှိသည့် ပတ်ဝန်းကျင်ထိခိုက်မှု လျော့နည်းစေရန် ဆောင်ရွက်မည့်အစီအမံများကို စီမံကိန်း အကောင်အထည်ဖော်ဆောင်သူမှ လိုက်နာဆောင်ရွက်မည်ဖြစ်ကြောင်း ကတိဝန်ခံချက်ကို EIA အစီရင်ခံစာတွင် ထည့်သွင်းဖော်ပြရန်၊

(ဃ) အထက်ပါလေ့လာဆန်းစစ်မှု ရလဒ်များကိုအခြေခံ၍ ပတ်ဝန်းကျင်နှင့်လူမှုရေး ထိခိုက်မှု အနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ် ၊ စွန့်ပစ်ပစ္စည်း/စွန့်ပစ်အရည်များ စီမံခန့်ခွဲမှုအစီအစဉ် ၊ စောင့်ကြည့်လေ့လာမည့် အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှုလျော့ပါးရေး ဆောင်ရွက်မည့်လုပ်ငန်းများအတွက် သုံးစွဲမည့် ရန်ပုံငွေ စသည်တို့ပါဝင်သည့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan - EMP) ကို ရေးဆွဲတင်ပြရန် နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော်ဆောင်ရွက်ရန်၊

(င) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ ဥပဒေ ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်း၊ စည်းမျဉ်းစည်းကမ်းများနှင့်အညီ လိုက်နာကျင့်သုံးအကောင်အထည်ဖော်ဆောင်ရွက်ရန်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
( မျိုးညွန့် ၊ ရုံး အ ဖွဲ့ မှူး)

မိတ္တူ -ညွှန်ကြားရေးမှူးချုပ် ၊ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
-ညွှန်ကြားရေးမှူးချုပ် ၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
-ညွှန်ကြားရေးမှူးချုပ် ၊ သစ်တောဦးစီးဌာန

မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဥပဒေအရ

အောင်ထက်မြက်ကုမ္ပဏီလီမိတက်

နှင့်

စက်မှုဝန်ကြီးဌာန

အမှတ် (၂) အကြီးစားစက်မှုလုပ်ငန်းအောက်ရှိ

အမှတ် (၂၂) အကြီးစားစက်ရုံ (ဘီးလင်း)ကို

နှစ်ရှည်ငှားရမ်းလုပ်ကိုင်ရန်

အဆိုပြုတင်ပြခြင်း

၂၀၁၅ ခုနှစ်၊ မတ်လ (      ) ရက်



# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
# စက်မှုဝန်ကြီးဌာန

စာအမှတ်၊ ၂၃-စမ(၂)၂၀၁၄ -၂၀၁၅(၄၇၈၇)
ရက်စွဲ၊ ၂၀၁၅ ခုနှစ်၊ ဇန်နဝါရီလ ၁၆ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး

အကြောင်းအရာ။ **အမှတ်(၂၂)အကြီးစားစက်ရုံ(ဘီးလင်း)အား နှစ်ရှည်ငှားရမ်းဆောင်ရွက်ခွင့်ပြုရေးကိစ္စ**

၁။ စက်မှုဝန်ကြီးဌာန၊ အမှတ်(၂)အကြီးစားစက်မှုလုပ်ငန်းကြီးကြပ်မှုရှိ အမှတ်(၂၂)အကြီးစားစက်ရုံ(ဘီးလင်း)ကို ၁၇.၇.၂၀၁၄ ရက်နေ့တွင်ကျင်းပပြုလုပ်သော ပြည်ထောင်စုအစိုးရအဖွဲ့အစည်းအဝေးအမှတ်စဉ်(၁၄/၂၀၁၄)၏ သဘောတူခွင့်ပြုချက်အရ Aung Htet Myet Co., Ltd. သို့ ၁.၁၁.၂၀၁၄ ရက်နေ့မှစ၍ (၂၀+ ၅+ ၅)နှစ် ငှားရမ်းဆောင်ရွက်ခဲ့ပါသည်။

၂။ Aung Htet Myet Co., Ltd. မှ အမေရိကန်ဒေါ်လာ (၂.၄၈၃၅)သန်း အပါအဝင် စုစုပေါင်းငွေကျပ်(၂,၅၃၆.၅)သန်း ရင်းနှီးမြှုပ်နှံ၍ အမှတ်(၂၂)အကြီးစားစက်ရုံ(ဘီးလင်း)ရှိ စက်ပစ္စည်းများအား မွမ်းမံပြင်ဆင်ခြင်းနှင့် စက်အသစ်တပ်ဆင်ခြင်းတို့ကိုဆောင်ရွက်ပြီး နိုင်ငံတကာအဆင့်မီ (Radial Tyre)များထုတ်လုပ်၍ ပြည်တွင်းဈေးကွက်သို့ ၈၀% နှင့် ပြည်ပသို့ ၂၀% ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းများဆောင်ရွက်သွားမည်ဖြစ်ပါသဖြင့် ငှားရမ်းကာလကို (၅၀+ ၁၀+ ၁၀)နှစ်ဖြင့် သက်တမ်းတိုးမြှင့်ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာပါသည်။

၃။ သို့ပါ၍ အမှတ်(၂)အကြီးစားစက်မှုလုပ်ငန်းကြီးကြပ်မှုရှိ အမှတ်(၂၂)အကြီးစားစက်ရုံ(ဘီးလင်း)ကို ငှားရမ်းဆောင်ရွက်လျက်ရှိသော Aung Htet Myet Co., Ltd. မှ နိုင်ငံတကာအဆင့်မီ (Radial Tyre)များထုတ်လုပ်၍ ပြည်တွင်း၊ ပြည်ပသို့ ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းများဆောင်ရွက်နိုင်ရေးအတွက် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုနိုင်ပါရန်နှင့် ငှားရမ်းကာလအား (၅၀+ ၁၀+ ၁၀)နှစ်ဖြင့် နှစ်ရှည်ငှားရမ်းဆောင်ရွက်ခွင့်ပြုနိုင်ပါရန် ကုမ္ပဏီ၏အဆိုပြုလွှာအားပူးတွဲလျက် ထောက်ခံပေးပို့အပ်ပါသည်။

၁၆.၁.၁၅

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(လှမိုး၊ ရုံးအဖွဲ့မှူး)

မိတ္တူကို

အမှတ်(၂)အကြီးစားစက်မှုလုပ်ငန်း


D:\2015\Jan(15)\mm.doc-73

# AUNG HTET MYET COMPANY LIMITED

NO. 47, BAYINT NAUNG ROAD, HLAING TOWNSHIP YANGON, MYANMAR
TEL : 681571, 682368, 243415 FAX : 0951-683225
e-mail : thein.min@mptmail.net.mm

စာအမှတ်၊ ၀၀၆ /အထမ/စီမံ - ၂၀၁၅ ( ၀၀၉ )
ရက်စွဲ ။ ၂၀၁၅ ခုနှစ်၊ ဇန်နဝါရီလ ( ၁၃ ) ရက်

သို့




ဦးဆောင်ညွှန်ကြားရေးမှူး
အမှတ် (၂) အကြီးစားစက်မှုလုပ်ငန်း
စက်မှုဝန်ကြီးဌာန။

အကြောင်းအရာ ။ ။ ဌားရမ်းဆောင်ရွက်လျက်ရှိသော စက်ရုံအား (၅၀ + ၁၀ + ၁၀) နှစ် BOT စနစ်ဖြင့် ဆောင်ရွက်နိုင်ရေးအတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြရန် အဆိုပြုလွှာ Proposal ပေးပို့ခြင်း။

ရည်ညွှန်းချက် ။ ။ စက်မှုဝန်ကြီးဌာန၊ အမှတ် (၂) အကြီးစားစက်မှုလုပ်ငန်း No.(2), Heavy Industries Enterprise ၏ (၁၁-၉-၂၀၁၄) ရက်စွဲပါစာအမှတ် - ၁၅၀၃ /၁/စမ (၂၀၁၄)/၉၀၃

၁။ ကျွန်တော်များ အောင်ထက်မြက်ကုမ္ပဏီလီမိတက်သည် အမှတ် (၂) အကြီးစားစက်မှုလုပ်ငန်း၊ အမှတ် (၂၂) အကြီးစားစက်ရုံ (ဘီးလင်း) အား (၅၀ + ၁၀ + ၁၀) နှစ်၊ BOT စနစ်ဖြင့် ဆောင်ရွက်လိုကြောင်း တင်ပြခြင်းအပေါ် ကုမ္ပဏီအနေဖြင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် (MIC) သို့ အဆိုပြုတင်ပြ ဆက်သွယ် ဆောင်ရွက်သွားရန် အကြောင်းကြားလာသည့် ရည်ညွှန်းချက်ပါစာကိုလက်ခံရရှိခဲ့ပြီး ဖြစ်ပါသည်။

၂။ ယခုအခါ ကျွန်တော်များကုမ္ပဏီမှ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြနိုင်ရန် အဆိုပြုလွှာ Proposal ကို စီးပွားရေးဆိုင်ရာအချက်အလက်များနှင့် အသေးစိတ်ပြုစု ရေးဆွဲထားပြီး ဖြစ်ပါသည်။

၃။ သို့ဖြစ်ပါ၍ လူကြီးမင်းဌာနမှတစ်ဆင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ ဆက်လက်တင်ပြ ပေးနိုင်ရေးအတွက် လိုအပ်သလိုဆောင်ရွက်ပေးနိုင်ပါရန် အဆိုပြုလွှာ Proposal ( ၅ )စုံ နှင့်အတူ ပေးပို့တင်ပြ အပ်ပါသည်။

လေးစားစွာဖြင့်

(မောင်မောင်ဌေး)
MANAGING DIRECTOR
AUNG HTET MYET CO., LTD.

---

**FACTORY ADDRESS:** **Yangon Tyre Factory,** No 36, 37, Pabegaung Mg Khet Street,
Shwe Pyi Thar Industrial Zone (4), Yangon, Myanmar.
Tel : 618150, 618151, 618461, Fax : 618462



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
စက်မှုဝန်ကြီးဌာန

စာအမှတ်၊ ၂၃-စမ(၂)၂၀၁၄-၂၀၁၅(၄၈၃၉)
ရက်စွဲ၊ ၂၀၁၅ ခုနှစ်၊ ဇန်နဝါရီလ ၂၀ ရက်

သို့

ပြည်ထောင်စုရှေ့နေချုပ်ရုံး

အကြောင်းအရာ။ **ငှားရမ်းရေးသဘောတူစာချုပ်(မူကြမ်း)အပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးရေးကိစ္စ**

၁။ စက်မှုဝန်ကြီးဌာန၊ အမှတ်(၂)အကြီးစားစက်မှုလုပ်ငန်း ကြီးကြပ်မှုရှိ အမှတ်(၂၂) အကြီးစားစက်ရုံ(ဘီးလင်း)ကို ၁၇.၇.၂၀၁၄ ရက်နေ့တွင် ကျင်းပပြုလုပ်သော ပြည်ထောင်စုအစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ်(၁၄/၂၀၁၄)၏ သဘောတူခွင့်ပြုချက်အရ Aung Htet Myet Co., Ltd. သို့ ၁.၁၁.၂၀၁၄ ရက်နေ့မှစ၍ (၂၀+၅+၅)နှစ် ငှားရမ်းဆောင်ရွက်ခဲ့ပါသည်။

၂။ Aung Htet Myet Co., Ltd. မှ အမေရိကန်ဒေါ်လာ (၂.၄၈၃၅)သန်း အပါအဝင် စုစုပေါင်းငွေကျပ်(၂,၅၃၆.၅)သန်း ရင်းနှီးမြှုပ်နှံ၍ နိုင်ငံတကာအဆင့်မီ (Radial Tyre)များ ထုတ်လုပ်၍ ပြည်တွင်းဈေးကွက်သို့ ၈၀% နှင့် ပြည်ပသို့ ၂၀% ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းများဆောင်ရွက်သွားမည်ဖြစ်ပါသဖြင့် ငှားရမ်းကာလကို (၅၀+ ၁၀+ ၁၀)နှစ်ဖြင့် သက်တမ်းတိုးမြှင့်ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့တင်ပြထားပြီးဖြစ်ပါသည်။

၃။ သို့ပါ၍ အမှတ်(၂၂) အကြီးစားစက်ရုံ(ဘီးလင်း)အား Aung Htet Myet Co., Ltd. သို့ (၅၀+ ၁၀+ ၁၀)နှစ်ဖြင့် နှစ်ရှည်ငှားရမ်းဆောင်ရွက်ရာတွင် စာချုပ်ပြင်ဆင်ချုပ်ဆိုနိုင်ရေးအတွက် ပူးတွဲပါမူလငှားရမ်းရေးသဘောတူစာချုပ်နှင့်တကွ ပြင်ဆင်ချုပ်ဆိုမည့်စာချုပ်(မူကြမ်း) တို့အပေါ် အကြံပြုချက်နှင့် သဘောထားမှတ်ချက်များအား ပြန်ကြားပေးနိုင်ပါရန် ညှိနှိုင်းမေတ္တာရပ်ခံအပ်ပါသည်။

၂၀.၁.၁၅

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(လှမိုး၊ ရုံးအဖွဲ့မှူး)

မိတ္တူကို

အမှတ်(၂)အကြီးစားစက်မှုလုပ်ငန်း



D:\2015\Jan(15)mm.doc-94

# AUNG HTET MYET COMPANY LIMITED

NO. 47, BAYINT NAUNG ROAD, HLAING TOWNSHIP YANGON, MYANMAR
TEL : 681571, 682368, 243415 FAX : 0951-683225
e-mail : thein.min@mptmail.net.mm


စာအမှတ်၊ ၀၀၆ / အထမ / စီမံ - ၂၀၁၅
ရက်စွဲ ၊ ၂၀၁၅ ခုနှစ်၊ ဇန်နဝါရီလ ( ) ရက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့

အကြောင်းအရာ ။ ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်နှင့် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ (၂၀)အရ အခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့် သက်သာခွင့်များလျှောက်ထားခြင်း။

၁။ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ကျွန်တော်တို့၏ အောင်ထက်မြက် ကုမ္ပဏီလီမိတက် (AUNG HTET MYET CO.LTD) သည် မွန်ပြည်နယ် ဘီးလင်းမြို့နယ်ရှိ မြေဧရိယာ ၁၂၉. ၇၉ ဧက ပေါ်ရှိ အမှတ် (၂) စက်မှုလုပ်ငန်း၊ စက်မှုဝန်ကြီးဌာနပိုင် အမှတ် (၂၂)၊ အကြီးစားစက်ရုံ (ဘီးလင်း) ၏ အဆောက်အအုံ များနှင့် စက်ပစ္စည်းများကို B.O.T စနစ်ဖြင့် ငှားရမ်း၍ အရည်အသွေးမြင့် နိုင်ငံတကာအဆင့်မီရေဒီယယ်တာယာ (Radial Tyre) အမျိုးမျိုးထုတ်လုပ်၍ ပြည်ပသို့တင်ပို့ ရောင်းချရန်နှင့် ပြည်တွင်းလိုအပ်ချက်ကို ဖြည့်ဆည်းရောင်းချနိုင်ရန်အတွက် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြလျှောက်ထားအပ်ပါသည်။

၂။ ကျွန်တော်တို့၏ ကုမ္ပဏီအနေဖြင့် အရည်အသွေးမြင့် နိုင်ငံတကာအဆင့်မီရေဒီယယ်တာယာ (Radial Tyre) များကို ထုတ်လုပ်ရန်အလို့ငှာ လက်ရှိစက်ပစ္စည်းများကို Renovation လုပ်ခြင်း၊ အသစ်တပ်ဆင်ခြင်း၊ (Installation) လုပ်ရန်အတွက် ငွေသားကျပ် (၅၀. ၀) သိန်း၊ ပရိဘောဂနှင့် ရုံးသုံးစက်ပစ္စည်းတန်ဖိုးကျပ် (၃. ၀) သိန်းနှင့် စက်ပစ္စည်းတန်ဖိုးကျပ် (၂၄၈၃. ၅) သိန်း (US$ 2483500) အပါအဝင်) စုစုပေါင်း ကျပ် (၂၅၃၆. ၅) သိန်း (US$ 2.4835သိန်း အပါအဝင်) ကို ရင်းနှီးမြှုပ်နှံလုပ်ကိုင်ဆောင်ရွက်သွားမည်ဖြစ်ပါသည်။

၃။ အောင်ထက်မြက် ကုမ္ပဏီလီမိတက်အနေဖြင့် မြန်မာနိုင်ငံတွင် တိုးတက်များပြားလျက်ရှိသော မော်တော်ယာဉ်များ၏ တာယာလိုအပ်ချက်ကို အတတ်နိုင်ဆုံးဖြည့်ဆည်းသွားရန်နှင့် ပြည်ပသို့လည်း တင်ပို့ရောင်းချခြင်းဖြင့် နိုင်ငံခြားဝင်ငွေ ရှာဖွေပေး၍ တိုင်းပြည်စီးပွားတိုးတက်မှုကို တစ်ဖက်တစ်လမ်းမှ အထောက်အကူပြုသွားရန် ရည်ရွယ်၍လုပ်ကိုင်ဆောင်ရွက်သွားမည်ဖြစ်ပါသည်။

၄။ အဆိုပါ (Radial Tyre) စက်ရုံမှ ထုတ်လုပ်မည့် အဆင့်မြင့် နိုင်ငံတကာအဆင့်မီ (Radial Tyre) များ၏ ပြည်တွင်းဈေးကွက်သို့ ၈၀ % ရောင်းချပေးမည်ဖြစ်ပြီး၊ ၂၀% ကိုပြည်ပဈေးကွက်သို့ တင်ပို့ရောင်းချသွားမည်ဖြစ်ပါသည်။

၅။ ထို့အပြင် အဆိုပါ (Radial Tyre) စက်ရုံကို အဆင့်မြှင့်တင်ဆောင်ရွက်ခြင်းဖြင့် ဒေသအတွက် အလုပ်အကိုင်အခွင့်အလမ်းများပေါ်ပေါက်လာခြင်း၊ ပြည်ပမှတင်သွင်းမှု၊ အစားထိုးနိုင် ခြင်းနှင့် ပြည်ပသို့တင်ပို့နိုင်မှုကြောင့် နိုင်ငံတော်အတွက် နိုင်ငံခြားဝင်ငွေ တိုးတက်ရရှိနိုင်ခြင်းနှင့် လုပ်ငန်းဝင်ငွေမှ နိုင်ငံတော်အခွန်ဝင်ငွေ ပိုမိုရရှိလာနိုင်ပြီး နိုင်ငံစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုအတွက် တစ်ဖက်တစ်လမ်းမှ အထောက်အကူပြုနိုင်မည်ဖြစ်ပါသည်။

၆။ သို့ပါ၍ ကျွန်တော်များ အောင်ထက်မြက်ကုမ္ပဏီလီမိတက် (AUNG HTET MYET CO.LTD) မှ စက်မှုဝန်ကြီးဌာန အမှတ် (၂) အကြီးစားစက်မှုလုပ်ငန်းအောက်ရှိအမှတ် (၂၂) အကြီးစားစက်ရုံ (ဘီးလင်း) အား B.O.T စနစ်ဖြင့် ငှားရမ်း၍ ထုတ်လုပ်မှုလုပ်ငန်း လုပ်ကိုင်ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ (၂၀) အရ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များ ခံစားခွင့်ပြုပါရန် လျှောက်ထားတင်ပြအပ်ပါသည်။

၇။ ဤလျှောက်လွှာနှင့် အတူအောက်ဖော်ပြပါအထောက်အထားစာရွက်စာတမ်းများကို ပူးတွဲတင်ပြအပ်ပါသည်။

(က) ကမကထပြုသူ၏ လုပ်ငန်းဆောင်ရွက်ရန်အဆိုပြုလွှာ

(ခ) ဘဏ္ဍာရေးအချက်အလက်များနှင့် ပတ်သက်၍ တွက်ချက်မှုဇယားများ

(ဂ) စက်မှုဝန်ကြီးဌာန၊ အမှတ် (၂) အကြီးစားစက်မှုလုပ်ငန်းနှင့် အောင်ထက်မြက် ကုမ္ပဏီလီမိတက်တို့ချုပ်ဆိုသော အမှတ် (၂၂) အကြီးစားစက်ရုံ (ဘီးလင်း)၏ မြေ၊ အဆောက်အအုံ၊ စက်ပစ္စည်းများကို B.O.T စနစ်ဖြင့် ငှားရမ်းသည့်သဘောတူစာချုပ် (မူကြမ်း)နှင့် ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက်

(ဃ) လုပ်ငန်းပိုင်းနှင့် ငွေရေးကြေးရေး အထောက်အထားများ

(င) ကုမ္ပဏီမှတ်ပုံတင်ထားပြီးဖြစ်ကြောင်းအထောက်အထားများ

လေးစားစွာဖြင့်

ဦးမောင်မောင်ဌေး

ဒါရိုက်တာ

အောင်ထက်မြက် ကုမ္ပဏီလီမိတက်

(AUNG HTET MYET CO.LTD)

**AUNG HTET MYET COMPANY LIMITED**

NO. 47, BAYINT NAUNG ROAD, HLAING TOWNSHIP YANGON, MYANMAR
TEL : 681571, 682368, 243415 FAX : 0951-683225
e-mail : thein.min@mptmail.net.mm

စာအမှတ်၊ ၀၀၆ / အထမ / စီမံ - ၂၀၁၅
ရက်စွဲ ၊ ၂၀၁၅ ခုနှစ်၊ ဇန်နဝါရီလ ( ) ရက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့

အကြောင်းအရာ ။ ။ အရည်အသွေးမြင့်၊ နိုင်ငံတကာအဆင့်မီ ရေဒီယယ်တာယာ (Radial Tyre) အမျိုးမျိုးထုတ်လုပ်ခြင်းလုပ်ငန်းဆောင်ရွက်ခြင်းနှင့် ပတ်သက်၍ ကတိခံဝန်ချက်တင်ပြခြင်း။

၁။ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ကျွန်တော်တို့၏ အောင်ထက်မြက် ကုမ္ပဏီလီမိတက် AUNG HTET MYET Co.Ltd) အား မွန်ပြည်နယ်၊ ဘီးလင်းမြို့နယ်ရှိ မြေဧရိယာ ၁၂၉. ၇၉ ဧကပေါ်ရှိ အမှတ် (၂) စက်မှုလုပ်ငန်း၊ စက်မှုဝန်ကြီးဌာနပိုင် အမှတ် (၂၂) အကြီးစားစက်ရုံ (ဘီးလင်း) ၏ အဆောက်အအုံများနှင့် စက်ပစ္စည်းများကို B.O.T စနစ်ဖြင့် ငှားရမ်း၍ အရည်အသွေးမြင့် နိုင်ငံတကာအဆင့်မီ ရေဒီယယ်တာယာ (Radial Tyre)များထုတ်လုပ်၍ ပြည်ပသို့တင်ပို့ရောင်းချရန်နှင့် ပြည်တွင်း ဈေးကွက်လိုအပ်ချက်ကို ဖြည်းဆည်းဖြန့်ဖြူးရောင်းချရန်အတွက်၊ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ တင်ပြလျှောက်ထားအပ်ပါသည်။

(က) ဤလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်သောလုပ်ငန်း ဖြစ်ပါသည်။ ဤလုပ်ငန်းတွင် နိုင်ငံခြားမှ မည်သူမျှပိုင်ဆိုင်မှု မရှိပါကြောင်း ဝန်ခံကတိပြုပါသည်။

(ခ) ဤစက်ရုံမှ ထွက်ရှိလာသော (Radial Tyre) များကို ပြည်ပသို့ ၂၀ % တင်ပို့သွားမည်ဖြစ်ပါသည်။

(ဂ) နိုင်ငံတော်မှ မြေယာနှင့် ပတ်သက်၍ သတ်မှတ်ပြဌာန်းသည့် စည်းကမ်းသတ်မှတ်ချက်များကို လိုက်နာဆောင်ရွက်မည်ဖြစ်ပါသည်။

(ဃ) အောင်ထက်မြက်ကုမ္ပဏီလီမိတက် နှင့် စက်မှုဝန်ကြီးဌာန ၊ အမှတ် (၂) အကြီးစားစက်မှုလုပ်ငန်းတို့ချုပ်ဆိုသော အမှတ် (၂၂)၊ အကြီးစားစက်ရုံ (ဘီးလင်း) ငှားရမ်းသည့် သဘောတူစာချုပ်အရ ထုတ်လုပ်မှုကိုလည်း ပြည့်မီအောင် ဆောင်ရွက်မည်ဖြစ်ပြီး လျှပ်စစ်ဓာတ်အား၊ တယ်လီဖုန်းနှင့် ဆက်သွယ်ရေးဆိုင်ရာ အသုံးပြုကြေးနှင့်အခွန်အခများကိုလည်း သက်ဆိုင်

ရာဝန်ကြီးဌာန၏ သတ်မှတ်နှုန်းထားအတိုင်း သတ်မှတ်ရက်အတွင်း အချိန်မီ ပေးဆောင်ပါမည်။

(င) ထို့အပြင် ကျွန်တော်များကုမ္ပဏီအနေဖြင့် လုပ်ငန်းဆောင်ရွက်ရာတွင်လည်း ပတ်ဝန်းကျင်ညစ်ညမ်းမှု မဖြစ်ပွားရန်အတွက်လည်းကောင်း၊ မီးဘေးအန္တရာယ်မဖြစ်ပွားစေရန်အတွက်လည်းကောင်း၊အစီအမံများ၊ ကြိုတင်ကာကွယ်မှုများ ပြုလုပ်ဆောင်ရွက်ထားမည်ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

(စ) အသုံးပြုမည့်စက်များ၏ အရေအတွက်နှင့် ဈေးနှုန်းများမှန်ကန်မှုရှိကြောင်း၊ စက်အင်အားနှင့် အလုပ်သမားအင်အား အချိုးညီညွတ်မျှတမှုရှိကြောင်း ဝန်ခံကတိပြုပါသည်။

(ဆ) အောင်ထက်မြက်ကုမ္ပဏီအနေဖြင့် ပုဂ္ဂလိကစက်မှုလုပ်ငန်း ဥပဒေအရ ပြည်နယ်/တိုင်းဒေသကြီးရစက်မှုကြီးကြပ်ရေးနှင့် လုပ်ငန်းစစ်ဆေးမှု ညွှန်ကြားရေးဦးစီးဌာနတွင် မှတ်ပုံတင်ထားရှိမည်ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

(ဇ) တာဝန်ထမ်းဆောင်နေသော ဝန်ထမ်း၏ လစဉ်လစာထုတ်ငွေကျပ် နှစ်သိန်းထက်ကျော်လွန်ပါက သက်ဆိုင်ရာအခွန်ဦးစီးဌာနသို့ ဝင်ငွေခွန်ပေးဆောင်မည်ဖြစ်ပါကြောင်း ဝန်ခံကတိပြုပါသည်။

ဦးအောင်မောင်ဌေး

ဒါရိုက်တာ

အောင်ထက်မြက် ကုမ္ပဏီလီမိတက်

AUNG HTET MYET CO. LTD.

ပုံစံ ( မနသ - ၁)

မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ
ရင်းနှီးမြှုပ်နှံလိုသူ၏အဆိုပြုချက် ။
ဥပဒေပုဒ်မ ၂ ပုဒ်မခွဲ (ဂ) နှင့် ပုဒ်မ ဂ

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့။

စာအမှတ်၊ ဝဝ၆ / အထမ / စီမံ - ၂ဝ၁၅
ရက်စွဲ ၊ ၂ဝ၁၅ ခုနှစ်၊ ဇန်နဝါရီလ ( )ရက်

ကျွန်တော်/ကျွန်မသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်း ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုပါသဖြင့် ခွင့်ပြုမိန့်ထုတ်ပေးပါရန် အောက်ပါအချက်များကို ဖော်ပြ၍ လျှောက်ထားအပ်ပါသည်။

၁။ ရင်းနှီးမြှုပ်နှံလိုသူ၏ -

| | |
|---|---|
| (က) အမည် | ဦးမောင်မောင်ဌေး |
| (ခ) အဖအမည် | ဦးလှစိန် |
| (ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် | ၁၂/ကတတ (နိုင်) ဝဝ၆ဝ၃၁ |
| (ဃ) နေရပ်လိပ်စာ | အမှတ် (၉/အေ)၊ ကမ္ဘာ့ဇရိပ်သာလမ်း၊ ဗဟန်းမြို့နယ်၊ ရန်ကုန်မြို့။ |
| (င) လူမျိုး၊ ဘာသာ | ဗမာ၊ ဗုဒ္ဓဘာသာ |
| (စ) အဖွဲ့အစည်း အမည် | အောင်ထက်မြက် ကုမ္ပဏီလီမိတက် AUNG HTET MYET Co.Ltd. |
| (ဆ) လုပ်ငန်းအမျိုးအစား | ကုန်ထုတ်လုပ်မှုလုပ်ငန်း (Manufacturing) |
| (ဇ) အဖွဲ့အစည်း တည်ရှိရာအရပ် | အမှတ် (၄၇)၊ ဘုရင့်နောင်လမ်းမကြီး၊ လှိုင်မြို့နယ်၊ ရန်ကုန်မြို့။ |

# AUNG HTET MYET COMPANY LIMITED

NO. 47, BAYINT NAUNG ROAD, HLAING TOWNSHIP YANGON, MYANMAR
TEL : 681571, 682368, 243415 FAX : 0951-683225
e-mail : thein.min@mptmail.net.mm


ရက်စွဲ ။ ၂၀၁၅ ခုနှစ်၊ ဇန်နဝါရီလ (      ) ရက်။

<u>မီးဘေးအန္တရာယ် တားဆီးကာကွယ်ရန် စီမံထားရှိမှုတင်ပြခြင်း</u>

၁။ စက်ရုံအဆောက်အအုံတိုင်းတွင် လိုအပ်သည့်နေရာများတွင် အရေးပေါ်မီးသတ်ဆေးဘူးများကို ထားရှိခြင်း၊ ထိုမီးသတ်ဆေးဘူးများ EXPIRE DATE ကို ပုံမှန်စစ်ဆေးရန် တာဝန်ခံများအား ညွှန်ကြားထားပါသည်။

၂။ စက်ရုံပရဝဏ်ရှိရေကန်တိုင်းတွင် ရေအပြည့်ထည့်ထားပြီး စက်ရုံအတွင်း လိုအပ်သည့်နေရာများ၌ အရေးပေါ်မီးသတ်ပိုက်များသွယ်တန်းထားရှိပါသည်။

၃။ စက်ရုံ၌ ရေသယ်ယာဉ် (၁) စီးနှင့် မီးသတ်ကား (၁) စီးတို့ကို ရေအပြည့်ထည့်ထားခြင်း၊ အချိန်မရွေး မောင်းနှင်သွားလာနိုင်အောင် အဆင်သင့်အနေအထား ထားရှိပါသည်။

၄။ စက်ရုံအတွက် အသုံးပြုရန်လိုအပ်သော ဒီဇယ်ဆီနှင့် စက်သုံးဆီများကို မီးအလွယ်တကူ ကူးစက်နိုင်သောနေရာမှလွတ်ကင်းအောင် သိုလှောင်ထားရှိပြီး အရေးပေါ်ဖြစ်ပွားမှုများအတွက် မီးငြိမ်းသတ်ရန် သီးသန့်မီးသတ်ဗူးများထားရှိပါသည်။

စက်ရုံတွင် ကုန်ကြမ်းအဖြစ်သုံးစွဲသော ဓါတ်ပျံဆီများကိုလည်းစွမ်းအင်ဝန်ကြီးဌာန၊ ရေနံနှင့်သဘာဝဓါတ်ငွေ့လုပ်ငန်း၏ သတ်မှတ်ထားသည့် စည်းကမ်းချက်များနှင့်အညီ မြေအောက်သိုလှောင်ကန် (Under Ground Tank) တည်ဆောက်ပြီး စနစ်တကျ သိုလှောင်ထားရှိပါသည်။

၅။ မီးဘေးအန္တရာယ်ကျရောက်နိုင်သော နေရာများတွင် ဆေးလိပ်မသောက်ရ နယ်မြေသတ်မှတ်၍တားမြစ်ထားပါသည်။

၆။ စက်ရုံ၊ အလုပ်ရုံများတွင် သွယ်တန်းအသုံးပြုလျှက်ရှိသော လျှပ်စစ်ဝါယာကြိုးများ၏ စိတ်ချရမှု၊ ကြံ့ခိုင်မှုတို့ကို ပုံမှန်စစ်ဆေး၍ Defected တွေ့ရှိပါက ချက်ချင်းအသစ်လဲလှယ်အစားထိုးရန်၊ စက်ရုံရှိ လျှပ်စစ်ဝန်ထမ်းများကို ညွှန်ကြားထားပါသည်။

၇။ စက်ရုံရှိအဆောက်အအုံတိုင်းတွင် အရေးပေါ်ထွက်ပေါက်များထားရှိပြီး၊ ထွက်ပေါက်များအားလုံးတွင် ရောင်ပြန်စတစ်ကာများဖြင့် ဖော်ပြထားပါသည်။

၈။ မီးလောင်လွယ်သည့် စွန့်ပစ်ဘေးထွက်ပစ္စည်းများကို သီးသန့်နေရာတစ်ခုတွင် ဆောက်လုပ်ထားသော အုတ်အမှိုက်ကန်ထဲတွင် စွန့်ပစ်ရန် ညွှန်ကြားထားပါသည်။

၉။ ဘီးလင်းမြို့နယ်ရှိ မြန်မာနိုင်ငံမီးသတ်တပ်ဖွဲ့၏ အကူအညီကို ရယူ၍ စက်ရုံ၌ တာဝန်ထမ်းဆောင်လျှက်ရှိသော ဝန်ထမ်းများကို မီးဘေးကြိုတင်ကာကွယ်ရေးနှင့် စပ်လျဉ်း၍ပညာပေးဟောပြောပွဲများ၊ သင်တန်းများပြုလုပ်သွားရန် စီမံချက်ရေးဆွဲထားပါသည်။

လေးစားစွာဖြင့်

ဦးမောင်မောင်ဌေး
ဒါရိုက်တာ
အောင်ထက်မြတ် ကုမ္ပဏီလီမိတက်
(AUNG HTET MYET CO.LTD)

# AUNG HTET MYET COMPANY LIMITED

NO. 47, BAYINT NAUNG ROAD, HLAING TOWNSHIP YANGON, MYANMAR
TEL : 681571, 682368, 243415 FAX : 0951-683225
e-mail : thein.min@mptmail.net.mm

ရက်စွဲ ။ ၂၀၁၅ ခုနှစ်၊ ဇန်နဝါရီလ(      ) ရက်။

ပတ်ဝန်းကျင်ကို ထိန်းသိမ်းကာကွယ်ခြင်းလုပ်ငန်းဆောင်ရွက်ချက်တင်ပြခြင်း

အောင်ထက်မြက်ကုမ္ပဏီလီမိတက်အနေဖြင့် လုပ်ငန်းဆောင်ရွက်မည့်နေရာဒေသ၏ လေထု၊ ရေထု နှင့် မြေထုများညစ်ညမ်းခြင်းနှင့် အခြားသော ပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်ပျက်စီးဆုံးရှုံးခြင်းအား ကာကွယ်ထိန်းချုပ်ခြင်းလုပ်ငန်းကို အောက်ပါအစီအမံများဖြင့် ဆောင်ရွက်မည်ဖြစ်ပါသည်။

(၁) စက်ရုံမှ ရေဆိုးရေညစ်များစွန့်ပစ်ရန်မရှိပါ။
ဝန်ထမ်းများနှင့်အလုပ်သမားများ သောက်သုံးရန်ရေကို အဝီစိတွင်းများမှ ရေကို Water Treatment Plant မှ သန့်စင်ပြီး သောက်သုံးရေကန်ထဲသို့ ပေးပို့သုံးစွဲစေပါသည်။

(၂) ပတ်ဝန်းကျင်ဒေသ၏ လေထုကိုညစ်ညမ်းလောက်အောင် စက်ရုံမှအခိုးအငွေ့၊ အမှုန်အမွှားများမထွက်ရှိပါ။
စက်များတပ်ဆင်ထားသည့် အလုပ်ရုံတိုင်းတွင် လေထုတ်စက် (Exhaust Fan) များ တပ်ဆင်ထား၍ လေကိုသန့်စင်စေပြီး၊ စက်ရုံမှထွက်ရှိသော အမှုန်အမွှားများကိုလည်း အလုပ်ခန်းတိုင်း၌ Silo System ဖြင့် ချိတ်ဆက်ပြီး လေထုကိုသန့်စင်စေပါသည်။
၎င်းအပြင်ရော်ဘာနှင့်ရော်ဘာဓာတုပစ္စည်းများအား "ရောမွှေကြိတ်ခြင်း" (Section 01) တွင်လည်း အမှုန်အမွှားများ ထွက်ပေါ်ခြင်းမရှိစေရန် " Silo System " များဖြင့်တည်ဆောက်ထားပါသည်။

(၃) စက်ရုံ၏ ကုန်ကြမ်းများကို အချိုးကျ ရောမွှေသည့် ဌာန (Mixing Department) တွင် ရှိသည့် Carbon Black Filling System နှင့် Carbon Black & Filter Storage Tank များတွင် ခေတ်မီနည်းပညာသုံး စက်ပစ္စည်းများ (Carbon Black & Filter Automatic Feeding & Weighing System) ကို တပ်ဆင်အသုံးပြုထားပါသဖြင့် ပတ်ဝန်းကျင်ကိုထိခိုက်ညစ်ညမ်းစေခြင်းမရှိကြောင်း ဖော်ပြအပ်ပါသည်။

(၄) ၎င်းအပြင်တာယာ Production Line မှ ထွက်ရှိလာသော ရာဘာဆက်စပ်ဖြတ်စ ညှပ်စများကိုလည်း ပုဂ္ဂလိကဘိနပ်လုပ်ငန်းများအတွက် Recycle လုပ်၍အသုံးပြုရန်အတွက် ရောင်းချမည်ဖြစ်သဖြင့် ဘေးထွက်ပစ္စည်း By - Product များ စက်ရုံတွင်စုပုံနေမည်မဟုတ်ကြောင်းဖော်ပြအပ်ပါသည်။

(၅) ပတ်ဝန်းကျင်ဒေသ၏ မြေထုကိုထိခိုက်စေမည့် ဘေးထွက်စွန့်ပစ်ပစ္စည်းမရှိပါ။ စက်ရုံမှထွက်ရှိလာသည့် စွန့်ပစ်ပစ္စည်းများကို Recycle လုပ်ပြီးအသုံးချမည့်လုပ်ငန်းများမှ ဝယ်ယူသုံးစွဲလျက်ရှိပါသည်။

လေးစားစွာဖြင့်

ဦးမောင်မောင်ဌေး
ဒါရိုက်တာ
အောင်ထက်မြက် ကုမ္ပဏီလီမိတက်
AUNG HTET MYET CO., LTD.

# AUNG HTET MYET CO., LTD.

## RADIAL TYRE ထုတ်လုပ်မှုအဆင့်ဆင့်



သက်တမ်းတိုး



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

009760

အမျိုးသားစီမံကိန်းနှင့် စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာန

## ကုမ္ပဏီမှတ်ပုံတင်လက်မှတ်

အမှတ် ......၂၉၄...../ ၁၉၉၈–၁၉၉၉

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေအရ ....အောင်ထက်မြက် ကုမ္ပဏီ လီမိတက်........
..............................အား ပေးရန်တာဝန် ကန့်သတ်ထားသော လီမိတက်
ကုမ္ပဏီအဖြစ် ..၁၉၉၈...နှစ်၊ ..ဇွန်........လ၊ ..၁၂..ရက်နေ့တွင် မှတ်ပုံတင်ထားခြင်းအား
၂၀၁၃.နှစ်၊ ...ဇူလိုင်....လ၊ ..၂၄..ရက်နေ့မှစ၍ သက်တမ်းတိုး ခွင့်ပြုလိုက်သည်။

ညွှန်ကြားရေးမှူးချုပ်(ကိုယ်စား)
(နန်းရီရီသန်း ၊ ညွှန်ကြားရေးမှူး)
ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန

THE GOVERNMENT OF THE REPUBLIC OF THE UNION OF MYANMAR
MINISTRY OF NATIONAL PLANNING AND ECONOMIC DEVELOPMENT

## CERTIFICATE OF INCORPORATION

NO. ..........294.......... of 1998-1999

I hereby certify that the tenure of AUNG HTET MYET COMPANY......
LIMITED ....................................incorporated under the
Myanmar Companies Act on ..........12th JUNE, 1998..........
is renewed with effected from ..........24th JULY, 2013..........

For Director General
(Nang Yi Yi Than, Director)
Directorate of Investment and Company Administration

# ကုမ္ပဏီနှင့်သက်ဆိုင်သည့်အချက်အလက်များ

(က) အုပ်ချုပ်မှုဒါရိုက်တာအမည်၊ ဦးကျော်ကျော်စိန်(၅/မရန(နိုင်)၀၆၃၉၅၂)

(ခ) ကုမ္ပဏီ ရုံးခန်းလိပ်စာ၊ အမှတ်(၄၇)၊ ဘုရင့်နောင်လမ်း၊ လှိုင်မြို့နယ်၊ ရန်ကုန်မြို့။

(ဂ) ဆက်သွယ်ရန် ဖုန်းနံပါတ်၊ ၀၁-၆၈၀၅၇၃၊ ၀၁-၆၈၂၃၆၈

(ဃ) ဒါရိုက်တာများ အမည်စာရင်း–

၁။ ဦးထင်ကျော်ဦး
၁၂/ရကန(နိုင်)၀၄၄၀၂၉

၂။ ဒေါ်သီတာ(ခ)ဒေါ်သီတာအေး
၅/မရန(နိုင်)၀၆၃၉၅၄

၃။ ဦးမောင်မောင်ဌေး
၁၂/ကတတ(နိုင်)၀၀၆၀၃၂

၄။ ဒေါ်အေးအေးမော်
၅/မရန(နိုင်)၀၆၃၉၅၂

မှတ်ချက် ။ (၁) ဤကုမ္ပဏီမှတ်ပုံတင်လက်မှတ်သည်မှတ်ပုံတင်ရက်စွဲ( ၁-၈-၂၀၁၃ )မှ ( ၃၀-၇-၂၀၁၈ )ရက်နေ့အထိ(၅)နှစ်သက်တမ်းအတွက်သာ ဖြစ်သည်။ သက်တမ်း မကုန်ဆုံးမီ (၃)လအလိုတွင် သက်တမ်းတိုးရန် ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာနသို့ လျှောက်ထား ရမည်။

(၂) ကုမ္ပဏီ အနေဖြင့် သင်းဖွဲ့မှတ်တမ်းတွင်အဆိုပြု တင်ပြထားသော လုပ်ငန်းရည်ရွယ်ချက်များကိုသာ လုပ်ကိုင်ရမည်။

(၃) သင်းဖွဲ့မှတ်တမ်းပါ ရည်ရွယ်ချက်များသည် သက်ဆိုင်ရာ ပြည်ထောင်စု ၀န်ကြီးဌာန၏ တည်ဆဲဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်း များနှင့်အညီ ခွင့်ပြုချက် ရရှိမှသာ ဆောင်ရွက်ခွင့် ရှိမည် ဖြစ်ပါသည်။

(၄) လုပ်ငန်းရည်ရွယ်ချက် ပြောင်းလဲ လုပ်ကိုင်လိုပါက ပြောင်းလဲ လုပ်ကိုင်လိုသည့် လုပ်ငန်း ရည်ရွယ်ချက်များအား သင်းဖွဲ့မှတ်တမ်းတွင် ပြင်ဆင်၍ မှတ်ပုံတင်ရန်အတွက် ဒါရိုက်တာအဖွဲ့(BOD)၏ အထူး အစည်းအဝေး ဆုံးဖြတ်ချက် မှတ်တမ်းနှင့်အတူ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန သို့ လျှောက်ထား ရမည် ။

ညွှန်ကြားရေးမှူးချုပ်(ကိုယ်စား)
(မြင့်လွင်၊ ဒုတိယညွှန်ကြားရေးမှူး)

ORIGINAL

1. Name and Address of Enterprise
လုပ်ငန်းအမည်နှင့် လိပ်စာ

AUNG HTET MYET CO,LTD.
~~NO,6,GANDAMAR STREET,NGWE KYAR YAN YEIKTHA,SOUTH OKKALAPA T/S,~~
~~YANGON.~~

2. Contact No. ဆက်သွယ်ရန်

703209

| Telephone No. တယ်လီဖုန်းနံပါတ် | Fax No. ဖက်စ်နံပါတ် | Telex No. တဲလက်စ်နံပါတ် |
|---|---|---|

3. Business Registration No. 294/98-99(12-6-98)
လုပ်ငန်းမှတ်ပုံတင်အမှတ်

4. Registration No. & Date 5 | 1 | 1999
ကြီးကြပ်အမှတ်နှင့် နေ့စွဲ

MYA THA 10044

Union of Myanmar
Ministry of Commerce
Directorate of Trade
ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန
ကုန်သွယ်ရေးညွှန်ကြားမှုဦးစီးဌာန

**CERTIFICATE OF EXPORTER/IMPORTER REGISTRATION**
ထုတ်ကုန်သွင်းကုန်လုပ်ငန်းရှင် မှတ်ပုံတင်လက်မှတ်

Note: ☐ Please tick ( ✓ ) where applicable
သက်ဆိုင်ရာအကွက်ကိုအမှန် အမှတ်အသားပြုပါ

5. Type of Business လုပ်ငန်းအမျိုးအစား

☐ a) Sole Proprietorship တစ်ဦးတည်းပိုင်
☐ b) Partnership အစုစပ်
☐ c) Limited Company (Myanmar or Foreign) လီမိတက်ကုမ္ပဏီ (မြန်မာ/နိုင်ငံခြား)
☐ d) Co-operative Society သမဝါယမအသင်း
☐ e) Others (please specify) အခြား (ဖော်ပြရန်) INDUSTRIAL,PRODUCTION
ကျောက်ဘက်ဖါလုပ်ငန်း (၄) မျိုး ဆောင်ရွက်ခွင့်ရှိသည်၊

6. Terms and Conditions စည်းကမ်းချက်များ

I hereby register the above mentioned enterprise as Exporter / Importer subject to the following terms and conditions:
အောက်ဖော်ပြပါ စည်းကမ်းချက်များဖြင့် ထုတ်ကုန်သွင်းကုန် လုပ်ငန်းရှင်အဖြစ် မှတ်ပုံတင်ခွင့်ပြုသည်။

(a) Line of goods permitted - all items except prohibited and restricted items.
ခွင့်ပြုသည့်ကုန်ပစ္စည်းအမျိုးအမည် တားမြစ်ကန့်သတ်ထားသော ကုန်ပစ္စည်းအမယ်များမှလွဲ၍ ကျန်ပစ္စည်းများအားလုံး

(b) The enterprise must abide by the Export/ Import Rules and Regulations prescribed for the registered Exporters/Importers.
လုပ်ငန်းရှင်သည် မှတ်ပုံတင် ထုတ်ကုန်သွင်းကုန်လုပ်ငန်း လုပ်ကိုင်သူများ လိုက်နာရမည့် စည်းကမ်းချက်များကို လိုက်နာရမည်။

(c) The registration is valid for THREE year(s) up to 5-1-1999 TO 4-1-2002
မှတ်ပုံတင်သက်တမ်း နှစ် နေ့ထိ

x x x
For DIRECTOR GENERAL
ညွှန်ကြားရေးမှူးချုပ် (ကိုယ်စား)
MYAT TUN KYAW-DEPUTY DIRECTOR




Stamp
ရုံးတံဆိပ်

7. Extension of Export/Import Registration Period ထုတ်ကုန် သွင်းကုန်လုပ်ငန်း လုပ်ငန်းရှင် မှတ်ပုံတင်အား သက်တမ်းတိုးမြှင့်ပေးခြင်း

| Period Extended သက်တမ်းတိုးမြှင့်သည့်ကာလ | Authorised Signature & Name ခွင့်ပြုသူလက်မှတ်နှင့်အမည် |
|---|---|
| [illegible handwriting] | x x x x |
| (1) 1-8-2007 up to 31-1-2008 | MYINT SOE-DEPUTY DIRECTOR |
| [illegible handwriting] | [signature] |
| (2) 5-12-2007 up to 4-6-2008 [illegible] နေ့မှ ထိ | [illegible] ညွှန်ကြားရေးမှူး [illegible] |
| (3) 5-6-2008 up to 31-7-2009 [illegible handwriting] | [illegible] KYAW-DEPUTY [illegible] |

FORM VI

# RETURN OF ALLOTMENTS
# THE MYANMAR COMPANIES ACT.

(See Section 104 )

( To be filled with the Registrar within one month after the allotment is made )

Return of allotment from the 20th of October, 2011

on the of of the * AUNG HTET MYET CO.,LTD

Made pursuant to Section 104 (1)

Number of the shares allotted payable in cash ....... 63000 Shares

" " " .......

Nominal amount of the shares so allotted ....... Ks.- 630,000,000/-

" " " " .......

Amount paid or due and payable on cash such share....... Ks. 10,000/- (Fully Paid Up)

" " " "

Number of ordinary shares allotted for a consideration other than cash

Nominal amount of the ordinary shares so allotted .......

Amount to be treated as paid on each such share .......

The consideration for which such share have been allotted is as follow: -

**NOTE:-** In making a return of allotted under Section 104 (1) the Myanmar Companies Act., it is to be noted that-

1. When a return include several allotments made on different dates, the actual date of only the first and last of such allotment should be entered at the tip of the front page, and the registration of the return should be effected within one month of the first date.
2. When a return relates to one allotment only, made on one particular date, that date only should be inserted and the spaces for the second date struck out and the world made substituted for the world " From" after the world " allotments" above.

Here insert name of Company.

Distinguish between preference, ordinary, or other description of shares.

MANAGING DIRECTOR

Presented for filling by: U Kyaw Kyaw Sein (M.D)

Name, Address and Description of Allot tees

| | Name & N.R.C No | Address | Description | Number of the shares allotted | |
|---|---|---|---|---|---|
| | | | | Preference | ordinary |
| 1 | U Kyaw Kyaw Sein 5/Ma Ya Na (Naing) 063951 | No.9(B),Kanbawza Yeiktha Road, Bahan T/S, Yangon. | Merchant | | 15750 |
| 2 | U Htin Kyaw Oo 12/Ya Ka Na (Naing) 044029 | No.11(B),Kanbawza Yeiktha Road,Bahan T/S, Yangon. | Merchant | | 7875 |
| 3 | Daw Thidar @ Daw Thidar Aye 5/Ma Ya Na (Naing) 063954 | No.11(B),Kanbawza Yeiktha Road,Bahan T/S, Yangon. | Merchant | | 7875 |
| 4 | U Maung Maung Htay 12/Ka Ta Ta (Naing) 006031 | No.9(A),Kanbawza Yeiktha Road,Bahan T/S, Yangon. | Merchant | | 15750 |
| 5 | Daw Aye Aye Maw 5/Ma Ya Na (Naing) 063952 | No.9(A),Kanbawza Yeiktha Road,Bahan T/S, Yangon. | Merchant | | 15750 |
| | | | | Total: | 63000 Shares |

Signature

Date 20.10.11

MANAGING DIRECTOR U KYAW KYAW SEIN




# FORM VI

## RETURN OF ALLOTMENTS, THE MYANMAR COMPANIES ACT.

(See Section 104)

(To be filed with the Registrar within one month after the Allotment is made)

Return of allotment from the 29th of June 200 7

on the 29th of June 200 7 of the * AUNG HTET MYET CO., LTD.

Made pursuant to Section 104 (1)

Number of the shares allotted payable in cash 5,000 shares

Nominal amount of the shares so allotted Ks.50,000,000/-

Amount paid or due and payable on each such share Ks 10,000/- Fully Paid Up

Number of ordinary shares allotted for a consideration other than cash

Nominal amount of the ordinary shares so allotted

Amount to be treated as paid on each such share

The consideration for which such share have been allotted is as follows:-

---

NOTE. — In making a return of allotments under Section 104(1) the Myanmar Companies Act, it is to be noted that:

1. When a return includes several allotments made on different dates, the actual date of only the first and last of such allotment should be entered at the top of the front page, and the registration of the return should be effected within one month of the first date.

2. When a return relates to one allotment only, made on one particular date, that date only should be inserted and the spaces for the second date struck out and the world "made" substituted for the world "From" after the world "allotments" above.

* Here insert name of Company.

Distinguish between preference, ordinary, or other description of shares.

FORM XXVI

PARTICULARS OF DIRECTORS, MANAGERS AND MANAGING AGENTS AND OF ANY CHANGES THEREIN

(Myanmar Companies Act, See Section 87)

6473

Name of Company : AUNG HTET MYET CO., LTD

Presented by: U Kyaw Kyaw Sein (M.D)

| The Present Christian name or names of surnames | Nationality, National Registration Card No. | Usual Residential Address | Other Business Occupation | Changes |
|---|---|---|---|---|
| U Kyaw Kyaw Sein | Myanmar 5/Ma Ya Na (Naing) 063951 | No.299, First Fl; Pansodan Street, Kyauktada Township, Yangon. | Managing Director | Residence Transfered from No.9(B),Kanbawza Yeiktha Road,Bahan Township,Yangon. w.e.f 8.6.2011 |
| U Htin Kyaw Oo | Myanmar 12/Ya Ka Na (Naing) 044029 | No.6,Gandamar Street, Ngwe Kyar Yan Yeiktha, South Okkalapa Township, Yangon. | Director | Residence Transfered from NO.11(B),Kanbawza Yeiktha Road,Bahan Township,Yangon. w.e.f 8.6.2011 |
| Daw Thidar @ D. Thidar Aye | Myanmar 5/Ma Ya Na (Naing) 063954 | No.6, Gandamar Street, Ngwe Kyar Yan Yeiktha, South Okkalapa Township, Yangon. | Director | Residence Transfered from No.11(B),Kanbawza Yeiktha Road,Bahan Township,Yangon. w.e.f 8.6.2011 |
| Daw Aye Aye Maw | Myanmar 5/Ma Ya Na (Naing) 063952 | 25/27, University Avenue, Bahan Township, Yangon. | Director | Residence Transfered from No.9(A),Kanbawza Yeiktha Road,Bahan Township,Yangon. w.e.f 8.6.2011 |

NOTE : (1) A Complete list of the Directors or Managers or Managing Agents shown as existing in the last particulars.

(2) A note of the changes since the last list should be made in the column for " Changes" by placing against the new Director's name the word " in place of ..................... and by writing against any former Director's name the word "dead" " resigned" or as the case may be giving the date of change against the entry.



Signature ..............................

Designation U KYAW KYAW SEIN
MANAGING DIRECTOR
AUNG HTET MYET CO., LTD.

Dated this .........8.6.2011......

16474

# FORM XXVI
## PARTICULARS OF DIRECTORS, MANAGERS AND MANAGING AGENTS AND OF ANY CHANGES THEREIN
(Myanmar Companies Act, See Section 87)

Name of Company : AUNG HTET MYET CO., LTD

Presented by U Kyaw Kyaw Sein (M.D)

| The Present Christian name or names of surnames | Nationality, National Registration Card No. | Usual Residential Address | Other Business Occupation | Changes |
|---|---|---|---|---|
| U Maung Maung Htay | Myanmar 12/Ka Ta Ta (Naing) 006031 | 25/27, University Avenue, Bahan Township, Yangon. | Director | Residence Transfered from No.9(A),Kanbawza Yeiktha Road,Bahan Township,Yangon. w.e.f 8.6.2011 |

NOTE : (1) A Complete list of the Directors or Managers or Managing Agents shown as existing in the last particulars.
(2) A note of the changes since the last list should be made in the column for " Changes" by placing against the new Director's name the word " in place of ........................ and by writing against any former Director's name the word "dead " " resigned" or as the case may be giving the date of change against the entry.




Signature ...................................

Designation U KYAW KYAW SEIN MANAGING DIRECTOR AUNG HTET MYET CO., LTD.

Dated this 8.6.2011

THE MYANMAR COMPANIES ACT

# LIST OF SHAREHOLDERS.

## FORM E.

(As required by part II of the Act. See Section 32)

* * ● * *

SUMMARY OF SHARE CAPITAL AND SHARES OF THE

AUNG HTET MYET COMPANY LIMITED

*Made up to the* 31st *day of* December *being the day of the first Ordinary General Meeting in* 2012

| | |
|---|---|
| Nominal Share Capital – K. 700,000,000/- | |
| Divided into * 70000 Shares of K. 10,000/- each | |
| and Shares of K. each | |
| and Shares of K. each | |
| and Shares of K. each | |
| Total number of shares taken up to the 31st day December, 2012 (This number must agree, with the total shown in the list; as held by existing members) | 70000 Shares. |
| Numbers of Shares issued subject to payment wholly in cash | |
| Numbers of Shares issued as fully paid-up otherwise than in cash | |
| Numbers of Shares issued as partly paid-up to the extent of per share otherwise than in cash | |
| * There has been called up on each of 70000 Shares. K. | Ks. 10,000/- (Fully Paid Up) |
| There has been called up on each of Shares K. | |
| There has been called up on each of Shares K. | |
| + Total amount of calls received including payments on application and allotment K. | Ks. 700,000,000/- |
| Total amount agreed to be considered as paid shares which have been issued as fully paid up otherwise than in cash K. | |
| Total amount agreed to be considered as paid shares which have been issued as Partly paid-up to the extent of ... per Share K. | |
| Total amount of Calls unpaid K. | |
| Total amount of sums paid by way of commission in respect of shares of debentures or allowed by way of discount since date of last summary K. | |
| Total amount of shares forfeited K. | |
| Aggregate number of shares forfeited K. | |
| Total amount of Shares and stock for which share-warrants are outstanding K. | |
| Total amount of share-warrants issued K. | |
| Do do surrendered since date of last summary K. | |
| Number of shares or amount of stock comprised in each share-warrant K. | |
| Total amount of debt due from the Company in respect of all Mortgages and Charges which are required to be registered with the Registrar under this Act K. | |

When there are shares of different kind of amounts (e.g., Preference and Ordinary or K. 2000 or 1000) state the numbers and nominal values separately.

* Where various amounts have been called, or there are shares of different kinds state them separately.

+ Include what has been received or forfeited as on existing shares.

FORM E

AUNG HTET MYET COMPANY LIMITED

December, 2012

*Since the date of last return, showing their names and Of the shares so held.*

| Date and number of certificate of citizenship if issued by Government of the Union of Myanmar | *Number of shares held by existing Members at date of return | ACCOUNT OF SHARES. **Particulars of Shares Transferred since the date of the last return by persons who are still Members | | **Particulars of Shares Transferred since the date of the last return by persons who Ceased to be Members | | REMARKS. |
|---|---|---|---|---|---|---|
| | | *Number | Date of Registration of Transfer | *Number | Date of Registration of Transfer | |
| 5/Ma Ya Na (Naing) 063951 | 17500 | | | | | |
| 5/12 Ya Ka Na (Naing) 029 | 8750 | | | | | |
| 5/Ma Ya Na (Naing) 063954 | 8750 | | | | | |
| 12/Ka Ta Ta (Naing) 006031 | 17500 | | | | | |
| /Ma Ya Na (Naing) 063952 | 17500 | | | | | |
| Total: | 70000 | Shares | | | | |



AUNG HTET MYET CO., LTD. No Date

U KYAW KYAW SEIN
MANAGING DIRECTOR
AUNG HTET MYET CO., LTD.

** The date of Registration of each transfer should be given as well as the Number of Shares transferred on each date. The particulars should be placed opposite the name of the Transferor and not opposite that of the Transferee, but the name of the Transferee may be inserted in the "Remarks" column, immediately opposite the particulars of each Transfer.



FORM E

**FORM E**-Contd.

Names and addresses of the persons who are the MANAGERS of the ........AUNG HTET MYET........ COMPANY LIMITED

On the ......31st...... day of ...... December, 2012......

| NAME | ADDRESS | FOREIGNERS | Nationality Citizens of the Union of Myanmar |
| --- | --- | --- | --- |
| | - Nil - | | |

I also hereby certify that the company has not since the date of incorporation issued any invitation to the public to subscribe for any shares or debenture of the company.




U KYAW KYAW SEIN
MANAGING DIRECTOR
AUNG HTET MYET CO., LTD.

Note- Banking Companies must add a list of all their places of business.

I, U Kyaw Kyaw Sein, (M.D) ......... do here by certify that the above list and summary truly and correctly state the facts as they stood on the ......31st...... day of ...... December, 2012......




*(State whether Director Manager or Secretary.)*

*Signature* ........................

U KYAW KYAW SEIN
MANAGING DIRECTOR

FORM E-Contd.

Names and addresses of the persons who are the MANAGERS of the AUNG HTET MYET COMPANY LIMITED

On the 31st day of December, 2012

| NAME | ADDRESS | FOREIGNERS | Nationality Citizens of the Union of Myanmar |
|---|---|---|---|
| | - Nil - | | |

I also hereby certify that the company has not since the date of incorporation issued any invitation to the public to subscribe for any shares or debenture of the company.



U KYAW KYAW SEIN
MANAGING DIRECTOR
AUNG HTET MYET CO., LTD.

Note- Banking Companies must add a list of all their places of business.

I, U Kyaw Kyaw Sein, (M.D) do here by certify that the above list and summary truly and correctly state the facts as they stood on the 31st day of December, 2012



Signature

(State whether Director Manager or Secretary.)

U KYAW KYAW SEIN
MANAGING DIRECTOR

THE MYANMAR COMPANIES ACT

---:o:---

# FORM E.

---:o:---

NAME OF THE COMPANY

AUNG HTET MYET COMPANY LIMITED

REGISITERED OFFICE

No.47, Bayintnaung Road, Hlaing Township, Yangon.

FORM E.

*MANAGING AGENIS :*

NAME OF THE COMPANY

U KYAW KYAW SEIN
MANAGING DIRECTOR
AUNG HTET MYET CO., LTD.

Summary of Share Capital and Shares.

List of Persons holding Shares.

Names and Addresses of Directors.

Names and Addresses of Managers.

REGISTERED OFFICE

Dated, 31st December, 2012

**စက်မှုဝန်ကြီးဌာန**

**အမှတ်(၂)အကြီးစားစက်မှုလုပ်ငန်းနှင့်**

**အောင်ထက်မြက် ကုမ္ပဏီလီမိတက်**

**တို့ ချုပ်ဆိုသော**

**အမှတ်(၂၂)အကြီးစားစက်ရုံ(ဘီးလင်း)၏**

**မြေ၊ အဆောက်အအုံ၊ စက်ပစ္စည်းများကို ... B.O.T စနစ်ဖြင့်**

**ငှားရမ်းသည့်သဘောတူစာချုပ်**

ဤစာချုပ်ကို နေပြည်တော်တွင် ၂၀၁၄ ခုနှစ်၊ နိုဝင်ဘာလ ရက်နေ့၌ ဦးဆောင်ညွှန်ကြားရေးမှူး ဦးမြင့်နိုင် ကိုယ်စားပြုသော အမှတ်(၂)အကြီးစားစက်မှုလုပ်ငန်း၊ စက်မှုဝန်ကြီးဌာန၊ (နောင်တွင် **"အငှားချထားသူ"** ဟု ခေါ်တွင်စေပြီး ယင်းစကားရပ်၌ ၎င်းအားဆက်ခံသူနှင့် ဥပဒေအရ လွှဲအပ်ခြင်းခံရသူများ ပါဝင်သည်)က တစ်ဖက်

နှင့်

ဦးမောင်မောင်ဌေး( နိုင်ငံသားစိစစ်ရေးကတ်ပြားအမှတ်၊၁၂/ကတတ( နိုင်)၀၀၆၀၃၁) Director ကိုယ်စားပြုသော အမှတ်(၄၇)၊ ဘုရင့်နောင်လမ်းမကြီး၊ လှိုင်မြို့နယ်၊ ရန်ကုန်မြို့တွင် ရုံးခန်းဖွင့်လှစ်ထားသည့် **အောင်ထက်မြက်ကုမ္ပဏီလီမိတက်** (နောင်တွင် **"အငှားချထားခြင်းခံရသူ"**ဟု ခေါ်တွင်စေပြီး ယင်းစကားရပ်၌ ၎င်းအားဆက်ခံသူများ၊ တရားဝင်ကိုယ်စားလှယ်များနှင့် ဥပဒေအရလွှဲအပ်ခြင်းခံရသူများပါဝင်သည်)က အခြားတစ်ဖက်တို့သည် တစ်ဖက်ပါစည်းကမ်းချက် များကို သတ်မှတ်၍ နှစ်ဦးသဘောတူ ချုပ်ဆိုကြပါသည်-

## ကန့်သတ်

## 2

### ရည်ရွယ်ချက်

၁။ **"အငှားချထားသူ"**ပိုင်ဆိုင်သော မွန်ပြည်နယ်၊ ဘီးလင်းမြို့ရှိ အမှတ်(၂၂)အကြီးစားစက်ရုံ (ဘီးလင်း)ကို **"အငှားချထားခြင်းခံရသူ"**က ငှားရမ်းပြီး တာယာနှင့်ရော်ဘာပစ္စည်းထုတ်လုပ်မှု လုပ်ငန်းများအား ဆောင်ရွက်နိုင်ရန် ရည်ရွယ်လျက် ဤငှားရမ်းသည့် သဘောတူစာချုပ်ကို ချုပ်ဆိုခြင်းဖြစ်သည်။

### အာမခံခြင်းနှင့် ကိုယ်စားပြုခြင်း

၂။ **"အငှားချထားသူ"**သည် (နောက်ဆက်တွဲ 'က'မှ '**ဃ**' **အထိ**) အသေးစိတ်ဖော်ပြထားသော စက်ရုံ၊ မြေ၊ အဆောက်အအုံနှင့် စက်ပစ္စည်းများကို တရား**ဝင်ပိုင်ဆိုင်**သူဖြစ်ပြီး "အငှားချထားခြင်းခံရသူ"သည် စာချုပ်ရည်ရွယ်ချက်ပါ လုပ်ငန်းများကို **အကောင်**အထည်ဖော်ဆောင်ရွက်ရန် ငွေကြေးပြည့်စုံပြီး စာချုပ်ပါလုပ်ငန်းကို လုပ်ကိုင်ခွင့်ရှိ**သူဖြစ်သည်။** စာချုပ်တွင် လက်မှတ်ရေးထိုးမည့်သူများသည် ဤစာချုပ်တွင် လက်မှတ်ရေးထိုး**ရန် အခွင့်အာဏာ**ရှိသူများဖြစ်ကြောင်းကို အသီးသီး **အာမခံကြပါသည်။**

### အငှားချထားမည့် ပစ္စည်းများ

၃။ အောက်ပါ အငှားချထားသူပိုင် **စက်ရုံ**၊ မြေ၊ အဆောက်အအုံများ၊ စက်ပစ္စည်းကိရိယာများ၊ အခြားပစ္စည်းများနှင့် **မော်တော်ယာဉ်ယန္တရား**များကို **"အငှားချထားခြင်းခံရသူ"အား** ငှားရမ်းမည် ဖြစ်ပါသည်-

(က) စက်ရုံအမည်နှင့်**တည်**နေရာ — မွန်ပြည်နယ်၊ ဘီးလင်းမြို့နှင့် ၄ မိုင်ခန့် အကွာ (ရန်ကုန်မြို့မှ ၁၂၂ မိုင် ၆ ဖာလုံ)

| | | |
|---|---|---|
| (ခ) | မြေဧရိယာ(ဧက) | စက်ရုံအကျယ်အဝန်း ၁၂၉.၇၉ ဧက မြေစာရင်း ဦးစီးဌာနမှ ရေးဆွဲထုတ်ပေး ထားသောမြေပုံကိုနောက်ဆက်တွဲ (က) ဖြင့် ဖော်ပြထားပါသည်။ |
| (ဂ) | အဆောက်အအုံများ | အဆောက်အအုံများစာရင်းကို နောက်ဆက်တွဲ(ခ)ဖြင့် ဖော်ပြထားပါသည်။ |
| (ဃ) | စက်ပစ္စည်းကိရိယာများ | စက်ပစ္စည်းကိရိယာများစာရင်းကို နောက်ဆက်တွဲ(ဂ)ဖြင့် ပူးတွဲဖော်ပြထား ပါသည်။ |
| (င) | အခြားပစ္စည်းများ | အခြားပစ္စည်းများစာရင်းကို နောက်ဆက်တွဲ(ဃ)ဖြင့် ပူးတွဲဖော်ပြ ထားပါသည်။ |
| (စ) | မော်တော်ယာဉ်ယန္တရားများ | မော်တော်ယာဉ်ယန္တရားများစာရင်းကို နောက်ဆက်တွဲ(င)ဖြင့် ပူးတွဲဖော်ပြ ထားပါသည်။ |

**စာချုပ်သက်တမ်း**

၄။ စာချုပ်သက်တမ်းမှာ ဤစာချုပ်အသက်ဝင်သောနေ့ ၂၀၁၄ ခုနှစ် နိုဝင်ဘာလ ရက်နေ့မှ စ၍၊ ၂၀၆၄ ခုနှစ် နိုဝင်ဘာလ ရက်နေ့အထိ နှစ် ၅၀ ဖြစ်ပြီး၊ ငှားရမ်းသက်တမ်းကုန်ဆုံးပြီးနောက် ဆက်လက်ငှားရမ်းလိုပါက စာချုပ်သက်တမ်းအား တစ်ကြိမ်လျှင် ၁၀ နှစ်ဖြင့် သက်တမ်းနှစ်ကြိမ် တိုးမြှင့်ငှားရမ်းနိုင်သည်။ **"အငှားချထားခြင်းခံရသူ"** သည် ငှားရမ်းခနှုန်းထားဖော်ပြလျက် အကျိုး အကြောင်းခိုင်လုံစွာဖြင့် စာချုပ်သက်တမ်းတိုးမြှင့်ပေးပါရန် **"အငှားချထားသူ"**ထံ စာချုပ်သက်တမ်း မကုန်ဆုံးမီ ၆ လ ကြိုတင်၍ စာဖြင့်တင်ပြရမည်။ **"အငှားချထားသူ"** က သဘောတူညီလျှင် စာချုပ် သက်တမ်းတိုးမြှင့်နိုင်သည်။

**ဆိုင်းငံ့ကာလသတ်မှတ်ခြင်း**

၅။ ပြင်ဆင်ချိန်ကာလ ၄ လအား ဆိုင်းငံ့ကာလအဖြစ် သတ်မှတ်ပြီး အဆိုပါကာလသည် စာချုပ်ချုပ်ဆိုသည့်နေ့မှစ၍ သတ်မှတ်ရမည်။ အဆိုပါကာလအတွင်း တာယာမိုလ်အသစ်နှင့်ဆက်စပ်ပစ္စည်းများဝယ်ယူခြင်း၊ ကုန်ကြမ်းပစ္စည်းစုဆောင်းခြင်း ဆောင်ရွက်နိုင်ရန်ဖြစ်သည်။ သို့ရာတွင် ဝန်ထမ်းလစာနှင့် အခြားကုန်ကျစရိတ်များကို **"အငှားချထားခြင်းခံရသူ"** မှ စာချုပ်ချုပ်ဆိုသည့်နေ့မှစ၍ပေးချေဆောင်ရွက်ရပါမည်။

**"အငှားချထားခြင်းခံရသူ"မှ ရင်းနှီးမြှုပ်နှံရန် ရည်မှန်းချက်**

၆။ **"အငှားချထားခြင်းခံရသူ"**သည် စက်ရုံအားငှားရမ်းပြီး ၅ နှစ်ကာလအတွင်း US$ ၇,၀၀၀,၀၀၀ ခန့် တန်ဖိုးရှိ စက်၊စက်ပစ္စည်း ၊ စက်အရန်ပစ္စည်း၊ တာယာမိုလ်၊ လုပ်ငန်းသုံးအထောက်အကူပြုပစ္စည်းများ၊ တိုးချဲ့ ဝယ်ယူဖြည့်တင်းရင်းနှီးမြှုပ်နှံရန် ရည်မှန်းပါသည်။

**လွှဲပြောင်းပေးမည့်ဝန်ထမ်း**

၇။ လွှဲပြောင်းပေးမည့် ဝန်ထမ်းအင်အားမှာ အောက်ပါအတိုင်းဖြစ်ပြီး နောက်ဆက်တွဲ(စ)ဖြင့်ဖော်ပြအပ်ပါသည်-

| စဉ် | လစာနှုန်း(ကျပ်) | ဦးရေ |
|---|---|---|
| (က) | ၂၂၀၀၀၀-၂၀၀၀-၂၃၀၀၀၀ | ၁ |
| (ခ) | ၂၀၀၀၀၀-၂၀၀၀-၂၁၀၀၀၀ | ၁ |
| (ဂ) | ၁၈၀၀၀၀-၂၀၀၀-၁၉၀၀၀၀ | ၆ |
| (ဃ) | ၁၆၅၀၀၀-၂၀၀၀-၁၇၅၀၀၀ | ၁၂ |
| (င) | ၁၄၀၀၀၀-၂၀၀၀-၁၅၀၀၀၀ | ၉ |
| | အရာထမ်းစုစုပေါင်း | ၂၉ |

| စဉ် | လစာနှုန်း(ကျပ်) | ဦးရေ |
| --- | --- | --- |
| (စ) | ၁၀၅၀၀၀-၁၀၀၀-၁၁၀၀၀၀ | ၁၆၀ |
| (ဆ) | ၉၉၀၀၀-၁၀၀၀-၁၀၄၀၀၀ | ၅၂ |
| (ဇ) | ၉၃၀၀၀-၁၀၀၀-၉၈၀၀၀ | ၅၉ |
| (ဈ) | ၈၇၀၀၀-၁၀၀၀-၉၂၀၀၀ | ၄၂ |
| (ည) | ၈၁၀၀၀-၁၀၀၀-၈၆၀၀၀ | ၃၇ |
| (ဋ) | ၇၅၀၀၀-၁၀၀၀-၈၀၀၀၀ | ၇၀ |
| | အမှုထမ်းစုစုပေါင်း | ၄၂၀ |
| (ဌ) | နေ့စား | ၁ |
| | ဝန်ထမ်းစုစုပေါင်း | ၄၅၀ |

**ဝန်ထမ်းရေးရာကိစ္စရပ်များ**

၈။ ပြင်ပဝန်ထမ်းစည်းကမ်းချက်ဖြင့်လွှဲပြောင်းပေးမည့်ဝန်ထမ်းများနှင့်ပတ်သက်၍ "အငှားချထားခြင်းခံရသူ"မှ အောက်ပါ စည်းကမ်းချက် များနှင့်အညီ လိုက်နာဆောင်ရွက်ရမည်-

(က) စက်ရုံရှိပြင်ပဝန်ထမ်းစည်းကမ်းချက်ဖြင့် လွှဲပြောင်းပေးမည့်ဝန်ထမ်းများ၏ ဝန်ထမ်းလစာနှင့်ထောက်ပံ့ကြေးများကို စာချုပ်ချုပ်ဆိုပြီးသည့် အချိန်မှစ၍ လစဉ်လစာထုတ်ရက်တွင် ထုတ်ပေးရမည်။

(ခ) အကြောင်းတစ်စုံတစ်ရာကြောင့် နိုင်ငံတော်မှ လစာနှုန်းထားများပြောင်းလဲခဲ့လျှင် ပြောင်းလဲသည့် နှုန်းထားအတိုင်း ထုတ်ပေးရမည်။

(ဂ) အခါအားလျော်စွာ ရာထူးတိုးမြှင့်ခြင်း၊ နှစ်တိုးတိုးမြှင့်ခြင်းခံရသော ဝန်ထမ်းများအတွက် တိုးမြှင့်လစာနှင့် နှစ်တိုးကို ခံစားခွင့်ပြုရမည်။

(ဃ) "အငှားချထားခြင်းခံရသူ"သည် လက်ရှိတာဝန်ထမ်းဆောင်နေသော ဝန်ထမ်းများအား ဆက်လက်တာဝန်ပေးစေနိုင်အပ်ရမည်။

(င) ဝန်ထမ်းများ၏လစာ၊နှစ်တိုး၊စရိတ်နှင့်ထောက်ပံ့ကြေးများအား နိုင်ငံတော်၏ ခွင့်ပြုနှုန်းထားများအတိုင်း "အငှားချထားခြင်းခံရသူ"မှ ဆက်လက်ပေးဆောင်ရမည်။ မူရင်းလစာအား နိုင်ငံတော်သတ်မှတ်နှုန်းထားထက်ပို၍မပေးရ။ နိုင်ငံတော်မှ အခါအားလျော်စွာ ဝန်ထမ်းများအတွက် ထောက်ပံ့ချီးမြှင့်ရန် သတ်မှတ်ထားသော ထောက်ပံ့ကြေးကို "အငှားချထားခြင်းခံရသူ" မှ တာဝန်ယူ၍ ဝန်ထမ်းများသို့ ထောက်ပံ့ချီးမြှင့်ပေးရမည်။

(စ) စက်ရုံဝန်ထမ်းအား အငှားချထားသည့် စက်ရုံနှင့်ပတ်သက်သည့် လုပ်ငန်းတာဝန်ကိုသာ ပေးအပ်ရမည်။ အခြားလုပ်ငန်းတာဝန်များ ပေးအပ်လိုပါက စက်မှုဝန်ကြီးဌာနသို့ တင်ပြ၍ အတည်ပြုချက်ယူရမည်။

(ဆ) ဝန်ထမ်းများ၏လူမှုဖူလုံရေးလစဉ်ထည့်ဝင်ကြေးကို "အငှားချထားခြင်းခံရသူ"မှ ဝန်ထမ်းလစာ၏ ၃ ရာခိုင်နှုန်း ကျခံပေးသွင်းရမည်။

(ဇ) ဝန်ထမ်းများ၏ လူမှုဖူလုံရေးအကျိုးခံစားခွင့်ရရှိရေးအတွက် "အငှားချထားခြင်းခံရသူ"မှ တာဝန်ယူရမည်။

(ဈ) ဝန်ထမ်းများ၏ ပင်စင်ထည့်ဝင်ကြေးကို "အငှားချထားခြင်းခံရသူ"မှ တာဝန်ယူရမည်။

(ည) ဝန်ထမ်းများ၏ သက်သာချောင်ချိရေးကိစ္စများကို "အငှားချထားခြင်းခံရသူ"မှ တာဝန်ယူရမည်။

(ဋ) ဝန်ထမ်းများလုပ်ငန်းခွင်တွင် မတော်တဆထိခိုက်မှုဖြစ်ပွားပါက ဥပဒေအရ လိုအပ်သည်များကို "အငှားချထားခြင်း ခံရသူ"မှ တာဝန်ယူဆောင်ရွက်ပေးရမည်။

(ဌ) စက်ရုံလွှဲပြောင်းသည့်အခါ ပါရှိသောဝန်ထမ်းများအနက် ရာထူးမှနုတ်ထွက်လိုခြင်း၊ နှစ်ပြည့် (သို့မဟုတ်) သက်ပြည့်အငြိမ်းစားယူခြင်းများရှိပါက "အငှားချထားသူ"ထံ တင်ပြဆောင်ရွက်ရမည်။

(ဍ) လွှဲပြောင်းပေးသည့်ဝန်ထမ်းများကို ဝန်ထမ်းဆိုင်ရာပြစ်မှု၊ တာဝန်ပျက်ကွက်မှုနှင့် အခြားအကြောင်းအချက်များကြောင့် ဝန်ထမ်းစည်းမျဉ်းစည်းကမ်းများအရ အရေးယူရန်လိုအပ်ပါက **"အငှားချထားသူ"** နှင့် **"အငှားချထားခြင်းခံရသူ"**တို့ ပါဝင်သည့် စုံစမ်းစစ်ဆေးရေးအဖွဲ့ဖြင့်ဖွဲ့စည်းပြီး လုပ်ငန်းဌာနအကြီးအကဲနှင့် ဝန်ကြီးဌာနတို့၏ အတည်ပြုချက်အရဆောင်ရွက်ရမည်။

(ဎ) လွှဲပြောင်းပေးမည့်ဝန်ထမ်း(အရာထမ်း/အမှုထမ်း)များမှ ဝန်ကြီးဌာနနှင့် လုပ်ငန်း(ရုံးချုပ်)၏ လိုအပ်ချက်ရှိလာပါက **"အငှားချထားသူ"** မှ **"အငှားချထားခြင်းခံရသူ"**နှင့် ညှိနှိုင်း၍ စက်ရုံ၊ ဌာနတစ်ခုခုသို့ ပြောင်းရွှေ့တာဝန်ပေးအပ်နိုင်ပြီး ၎င်းဝန်ထမ်း၏နေရာအတွက်ဖြည့်တင်းပေးလိုက **"အငှားချထားသူ"** မှ အစားထိုးဖြည့်တင်းနိုင်သည်။

(ဏ) လွှဲပြောင်းပေးပြီးသည့်ဝန်ထမ်းများ၏ ခွင့်ခံစားချက်နှင့်ပတ်သက်၍ နိုင်ငံ့ဝန်ထမ်းဥပဒေအခန်း(၆)၊ အပိုဒ် (၁၄) ပါ ခွင့်အမျိုးအစားများကို သတ်မှတ်စည်းကမ်းချက်များနှင့်အညီ **"အငှားချထားခြင်းခံရသူ"**မှ ခွင့်ပြုပေးရမည်ဖြစ်ပြီး **"ခွင့်နှင့်စပ်လျဉ်းသည့် ကဒ်စာရင်းများ"**ကို နိုင်ငံ့ဝန်ထမ်းဥပဒေ အပိုဒ်(၁၅) မှ (၂၂) ပါအတိုင်း **"အငှားချထားခြင်းခံရသူ"**မှ တာဝန်ယူစီမံခန့်ခွဲကြီးကြပ်ရမည်။

(တ) ဝန်ထမ်းဆိုင်ရာအကျိုးခံစားခွင့်၊ ငွေကြေး၊ အခွင့်အရေးဆိုင်ရာများတွင် လွှဲပြောင်းပေးသည့် ဝန်ထမ်းများမှ တောင်းဆိုတင်ပြလာမှုများရှိပါက **"အငှားချထားသူ"** နှင့် **"အငှားချထားခြင်းခံရသူ"**တို့က ညှိနှိုင်း၍ဖြေရှင်းဆောင်ရွက်ပေးရမည်။

(ထ) စက်ရုံရှိလွှဲပြောင်းပေးမည့်ဝန်ထမ်းများသည် "ပြင်ပဝန်ထမ်းစည်းကမ်းချက်များ" နှင့်အညီ လိုက်နာသွားရမည်။ အထက်ပါအချက်များပါဝင်သည့် ပြင်ပဝန်ထမ်း စည်းကမ်းချက်များကို ပြည်ထောင်စုရာထူးဝန်အဖွဲ့နှင့်ညှိနှိုင်း၍ လုပ်ငန်းမှ ထုတ်ပြန်ပေးရမည်။ အဆိုပါ စည်းကမ်းချက်များကို **"အငှားချထားခြင်းခံရသူ"**နှင့် **"လွှဲပြောင်းပေးမည့်ဝန်ထမ်းများ"** မှ လိုက်နာသွားရမည်။

(ဒ) ဝန်ထမ်းအိမ်ရာတွင် လက်ရှိနေထိုင်လုပ်ကိုင်လျက်ရှိသော ဝန်ထမ်းများအား မိမိတို့စက်ရုံတွင် တာဝန်ထမ်းဆောင်စဉ်ကာလအတွင်း ဆက်လက်နေထိုင်ခွင့်ပြုရမည်။

၉။ လွှဲပြောင်းပေးမည့်ဝန်ထမ်းများနှင့်ပတ်သက်၍ **"အငှားချထားသူ"** က အောက်ပါစည်းကမ်းချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရမည် -

(က) ဝန်ထမ်းများ ပြောင်းရွှေ့တာဝန်ထမ်းဆောင်ခြင်း ဆိုင်ရာကိစ္စရပ်များအား **"အငှားချထားသူ"** ၏ စီမံမှုဖြင့်သာ ဆောင်ရွက်ရမည်။

(ခ) ဝန်ထမ်းများ ရာထူးအနွယ်(Lien) ဆက်လက်ထိန်းသိမ်းထားပြီး ရာထူးတိုးမြှင့်ရန်အချိန်ကျ ရောက်သည့်အခါ ရာထူးတိုးမြှင့်ခြင်းကိစ္စရပ်များကို **"အငှားချထားသူ"** က ဆောင်ရွက်ရမည်။

(ဂ) **"အငှားချထားခြင်းခံရသူ"**ဆောင်ရွက်မည့်ကိစ္စရပ်များမှအပ ကျန်ဝန်ထမ်းရေးရာကိစ္စရပ်များနှင့်ပတ်သက်၍ အမှတ်(၂)အကြီးစားစက်မှုလုပ်ငန်း၊ ဦးဆောင်ညွှန်ကြားရေးမှူး၊ ဥက္ကဋ္ဌအဖြစ် ဆောင်ရွက်သည့် စီမံခန့်ခွဲရေးအဖွဲ့မှ တာဝန်ယူဆောင်ရွက်ရမည်။

(ဃ) ဝန်ထမ်းရေးရာကိစ္စများနှင့်ပတ်သက်၍ **"အငှားချထားခြင်းခံရသူ"**နှင့် ဝန်ထမ်းများအကြား အငြင်းပွားမှုဖြစ်လာပါက အမှတ်(၂)အကြီးစားစက်မှုလုပ်ငန်း၊ ဦးဆောင်ညွှန်ကြားရေးမှူး ဥက္ကဋ္ဌအဖြစ်ဆောင်ရွက်သည့် စီမံခန့်ခွဲရေးအဖွဲ့မှ တာဝန်ယူဆောင်ရွက်ရမည်။ စီမံခန့်ခွဲရေးအဖွဲ့အား အောက်ပါအတိုင်းဖွဲ့စည်းရမည်-

| | | |
|---|---|---|
| (၁) | ဦးဆောင်ညွှန်ကြားရေးမှူး<br>အမှတ်(၂)အကြီးစားစက်မှုလုပ်ငန်း | ဥက္ကဋ္ဌ |
| (၂) | ဒါရိုက်တာ<br>အောင်ထက်မြက်ကုမ္ပဏီလီမိတက် | အဖွဲ့ဝင်(၁) |

(၃) ညွှန်ကြားရေးမှူး စီမံရေးဌာန — အဖွဲ့ဝင်(၂)

(၄) ညွှန်ကြားရေးမှူး ထုတ်လုပ်ရေးဌာန — အဖွဲ့ဝင်(၃)

(၅) ညွှန်ကြားရေးမှူး ဘဏ္ဍာရေးဌာန — အဖွဲ့ဝင်(၄)

(၆) ညွှန်ကြားရေးမှူး ရောင်းချဖြန့်ဖြူးရေးဌာန — အဖွဲ့ဝင်(၅)

(၇) ညွှန်ကြားရေးမှူး အုပ်ချုပ်ရေးဌာန — အတွင်းရေးမှူး

၁၀။ ပြင်ပဝန်ထမ်းစည်းကမ်းချက်ဖြင့် လွှဲပြောင်းပေးမည့်ဝန်ထမ်းများနှင့်ပတ်သက်၍ အောက်ပါအချက်များအား **"အငှားချထားခြင်းခံရသူ"** နှင့် **"အငှားချထားသူ"** တို့မှ နှစ်ဦးနှစ်ဖက်ညှိနှိုင်းဆောင်ရွက်ရမည်-

(က) ဝန်ထမ်းများရာထူးတိုးခြင်း၊ အရေးယူအပြစ်ပေးခြင်းနှင့် ဝန်ထမ်းရေးရာကိစ္စရပ်များအား နိုင်ငံတော်မှသတ်မှတ်ထားသည့် ပြင်ပဝန်ထမ်းစည်းမျဉ်းများနှင့်အညီ နှစ်ဦးနှစ်ဖက် ညှိနှိုင်းဆောင်ရွက်ရမည်။

(ခ) ဝန်ထမ်းရေးရာကိစ္စရပ်များနှင့်ပတ်သက်၍ ဝန်ထမ်းများ နစ်နာမှုမရှိစေရေးအတွက် နှစ်ဦးနှစ်ဖက် ညှိနှိုင်းဆောင်ရွက်ရမည်။

(ဂ) လုပ်ငန်းတွင် ထိခိုက်နစ်နာမှုမရှိစေရန်အတွက် ဝန်ထမ်းများအား ဤစက်ရုံ၏ ပြင်ပလုပ်ငန်း နေရာများသို့ ပြောင်းရွှေ့ခြင်းကို "အငှားချထားခြင်းခံရသူ"၏ သဘောတူညီမှုဖြင့် ဆောင်ရွက်ရမည်။

ငှားရမ်းခနှုန်းထား

၁၁။ ငှားရမ်းခနှုန်းထားမှာ အပိုဒ်(၃)ပါ စက်ရုံ၊ မြေ၊ အဆောက်အအုံ၊ စက်ပစ္စည်းကိရိယာများ၊ အခြားပစ္စည်းများ၊ မော်တော်ယာဉ်ယန္တရားများအပါအဝင် တစ်နှစ်လျှင် ကျပ်သန်း ၃၈၀(ကျပ်သန်း သုံးရာ့ရှစ်ဆယ်တိတိ)ဖြစ်ပါသည်။

၁၂။ ငှားရမ်းခနှုန်းထားအား **(နှစ်)နှစ်တစ်ကြိမ်** ပြန်လည်သုံးသပ်ပြီး လိုအပ်ပါက နှစ်ဦးသဘောတူ ညှိနှိုင်းပြင်ဆင်ခြင်းကို စက်မှုဝန်ကြီးဌာန၊ ပစ္စည်းဝယ်ယူရောင်းချရေးနှင့်ဘဏ္ဍာရေးဆိုင်ရာကော်မတီ အစည်းအဝေးသို့ တင်ပြအတည်ပြုချက်ရယူ၍ ပြင်ဆင်သတ်မှတ်နိုင်ပြီး ထိုပြင်ဆင်သတ်မှတ်သော ငှားရမ်းခနှုန်းထားသည် မူလ ငှားရမ်းခနှုန်းထား၏ ၅ ရာခိုင်နှုန်းထက် မပိုသောပမာဏဖြစ်ရမည်။

၁၃။ ငှားရမ်းထားသည့် စက်ရုံမြေဧရိယာအတွင်းရှိ မြေလွတ်များတွင် Commercial Building များ ထပ်မံဆောက်လုပ်ဆောင်ရွက်မည်ဆိုပါက ငှားရမ်းခတိုးမြှင့်တောင်းခံသွားမည်။

ငှားရမ်းခပေးချေခြင်း

၁၄။ "အငှားချထားခြင်းခံရသူ"သည် တစ်နှစ်အတွက် ငှားရမ်းခ ကျပ်သန်း ၃၈၀ ကို သုံးလလျှင် တစ်ကြိမ် ကျပ် ၉၅ သန်း(ကျပ်ကိုးဆယ့်ငါးသန်းတိတိ) ပေးချေရမည်ဖြစ်ပြီး ငှားရမ်းခပေးချေရာတွင် ပေးသွင်းရမည့် ကာလအား **"စာချုပ်ချုပ်ဆို၍ ဆိုင်းငံ့ကာလ ၄ လပြည့်သည့်နေ့"** မှစ၍ ပထမသုံးလကာလ၊ ပထမလ၏ ပထမရက်သတ္တပတ်အတွင်း ပေးသွင်းရမည်။ ငှားရမ်းခပေးချေရမည့် ဒုတိယ၊ တတိယ၊ စတုတ္ထ ၃ လကာလများတွင်လည်း ပထမလ၏ ပထမရက်သတ္တပတ်အတွင်း ပေးချေရမည်ဖြစ် ပါသည်။ သတ်မှတ်ရက်အတွင်း ပေးသွင်းခြင်းမရှိပါက နောက်ကျကြေးအဖြစ် တစ်ပတ်နောက်ကျတိုင်း သုံးလတစ်ကြိမ် ငှားရမ်းခ ကျပ် ၉၅ သန်း၏ ၁ ရာခိုင်နှုန်း အား "အငှားချထားသူ" ထံသို့ ပေးသွင်းရမည်။ နောက်ကျကြေးကို တစ်ပတ်မပြည့်ဘဲ ရက်စွန်းလျှင်လည်း သုံးလတစ်ကြိမ် ငှားရမ်းခ ကျပ် ၉၅ သန်း တိတိ၏ ၁ ရာခိုင်နှုန်း အား "အငှားချထားသူ"ထံသို့ ပေးသွင်းရမည်။

"အငှားချထားခြင်းခံရသူ"၏ တာဝန်ဝတ္တရားများ

၁၅။ "အငှားချထားခြင်းခံရသူ"သည် အောက်ပါတို့ကို တာဝန်ယူဆောင်ရွက်ရမည် -

(က) ငှားရမ်းသည့် မြေ၊ အဆောက်အအုံ၊ စက်ပစ္စည်းကိရိယာများ၊ အခြားပစ္စည်းများ၊ မော်တော် ယာဉ်ယန္တရားများကို(နောက်ဆက်တွဲ 'က' မှ 'င' အထိ)ပါအတိုင်း ငှားရမ်း ဆောင်ရွက်ရမည်။

(ခ) **"အငှားချထားခြင်းခံရသူ"**သည် လုပ်ငန်းအာမခံကြေးငွေအဖြစ် တစ်နှစ်ငှားရမ်းခ၏ ၁၀ ရာခိုင်နှုန်းဖြစ်သော ကျပ် ၃၈ သိန်း (ကျပ် သုံးဆယ့်ရှစ်သန်းတိတိ)ကို စာချုပ်ချုပ်ဆိုပြီး တစ်ပတ်အတွင်း အမှတ်(၂)အကြီးစား စက်မှုလုပ်ငန်းသို့ ပေးသွင်းရမည်။

(ဂ) **"အငှားချထားခြင်းခံရသူ"**သည် တာယာနှင့်ရော်ဘာပစ္စည်းများကို ကိုယ်ပိုင်အမှတ်တံဆိပ်ဖြင့် ထုတ်လုပ်လိုက ထုတ်လုပ်ခွင့်ရှိသော်လည်း အဆိုပါ ကုန်အမှတ်တံဆိပ်နှင့် စပ်လျဉ်း၍ မူပိုင်အခွင့်အရေးများ ချိုးဖောက်ကြောင်း တရားစွဲဆိုခံရလျှင် **"အငှားချထားခြင်းခံရသူ"** ၏ တာဝန်သာဖြစ်သည်။

(ဃ) ဤစာချုပ်တွင်ဖော်ပြထားသည့် ငှားရမ်းပေးချေရမည့် ကာလများတွင် သတ်မှတ်ရက်စွဲမတိုင်မီ ငှားရမ်းခများ ပေးဆောင်ရမည်။

(င) **စာချုပ်ချုပ်ဆိုပြီး ဆိုင်းငံ့ကာလ ၄ လပြည့်သည့်နေ့မှစ၍** တာယာထုတ်လုပ်မှုလုပ်ငန်းများ ဆောင်ရွက်ရမည်ဖြစ်ပြီး နှစ်စဉ်တာယာ ထုတ်လုပ်မှုကို ရေဒီယယ်တာယာလုံးရေ ၁၃၀,၀၀၀ လုံးနှင့်အထက် ထုတ်လုပ်ရမည်။

(စ) ငှားရမ်းခွင့်ရရှိထားသော အမှတ်(၂၂)အကြီးစားစက်ရုံ(ဘီးလင်း)၏ စက်ရုံမြေနှင့်အဆောက်အအုံတွင် ဆောင်ရွက်ရန် ရည်ရွယ်ထားသော လုပ်ငန်းများအပြင် အဆိုပြုတင်ပြချက်တွင် ဥပဒေနှင့် မငြိစွန်းသည့် တာယာနှင့်ရော်ဘာပစ္စည်း ထုတ်လုပ်မှုလုပ်ငန်းများကို တိုးချဲ့လုပ်ကိုင် ဆောင်ရွက်ခွင့်ရှိသည်။ သို့ရာတွင် **"အငှားချထားခြင်းခံရသူ"**မှ အဆိုပြုလုပ်ငန်း နှင့်မသက်ဆိုင်သော အခြားလုပ်ငန်းများအား လုပ်ကိုင်ဆောင်ရွက်လိုပါ က စက်မှုဝန်ကြီးဌာန၊ ပစ္စည်းဝယ်ယူရောင်းချရေးနှင့်ဘဏ္ဍာရေးဆိုင်ရာကော်မတီ အစည်း အဝေး၏ ခွင့်ပြုချက်ရရှိပြီးမှသာ ဆောင်ရွက်ရမည်။

(ဆ) ငှားရမ်းခွင့်ရရှိထားသော စက်ရုံနှင့်ပစ္စည်းများအား တစ်ဆင့်ငှားရမ်းခြင်း၊ ပေါင်နှံခြင်း၊ ရောင်းချခြင်း(သို့မဟုတ်)တစ်နည်းနည်းဖြင့် လွှဲပြောင်းပေးခြင်း၊ အသုံးပြုခွင့်ပေးခြင်းတို့ကို မပြုလုပ်ရ။ သို့သော် မိမိကုမ္ပဏီတစ်ဦးတည်းဖြင့် ဆောင်ရွက်ရန် ငွေကြေးမလုံလောက်ပါက မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုချက်ဖြင့် ပြည်တွင်း/ပြည်ပကုမ္ပဏီများနှင့် အတတ်ပညာအရင်းအနှီးများ ပူးပေါင်း၍ အကျိုးတူ

ဆောင်ရွက်ခွင့်ရှိသည်။ သို့သော် စက်ရုံနှင့်ပတ်သက်၍ မူလစာချုပ်ပါ "အငှားချထားသူ" နှင့် "အငှားချထားခြင်းခံရသူ" တို့၏ တာဝန်များနှင့်အညီ စာချုပ်ပါ စည်းကမ်းချက်များအတိုင်း "အငှားချထားခြင်းခံရသူ" ၌ တာဝန်ရှိစေရမည်။

(ဇ) အမှတ်(၂၂)အကြီးစားစက်ရုံ(ဘီးလင်း)၏ စက်ရုံမြေ၊ အဆောက်အအုံနှင့် စက်ပစ္စည်းကိရိယာများကို လိုအပ်သည့် မွမ်းမံပြင်ဆင်မှုများ ဆောင်ရွက်ရမည်။

(ဈ) တိုးချဲ့လုပ်ကိုင်မည့် ကုန်ထုတ်လုပ်ငန်းများနှင့် ဝန်ဆောင်မှုလုပ်ငန်းများအတွက် လိုအပ်သည့် စက်ပစ္စည်းအသစ်များတပ်ဆင်ခြင်း၊ အဆောက်အအုံအသစ်ဆောက်လုပ်ခြင်းတို့ကို "အငှားချထားသူ"၏ သဘောတူညီချက်ရယူပြီးမှသာ ဆောင်ရွက်ခွင့်ရှိသည်။

(ည) အငှားချထားသည့် စက်ရုံ၏ အခြေအနေများကို စစ်ဆေးရန်လိုအပ်ပါက "အငှားချထားသူ"က ကြိုတင်အကြောင်းကြားစာပေးပို့၍ နည်းလမ်းတကျ လုပ်ပိုင်ခွင့်ပေးအပ်သော ကိုယ်စားလှယ်များကို ဝင်ရောက်ခွင့်ပြုရမည်။ သို့ရာတွင် ၎င်းစစ်ဆေးခြင်းအတွက် ကုန်ထုတ်လုပ်ငန်းရပ်ဆိုင်းခြင်း၊ ထိခိုက်ခြင်း မဖြစ်စေရ။

(ဋ) အငှားချထားသည့်စက်ရုံတွင် အသုံးပြုသော သဘာဝဓာတ်ငွေ့၊ လျှပ်စစ်၊ ရေ၊ တယ်လီဖုန်းနှင့် ဆက်သွယ်ရေးဆိုင်ရာ အသုံးပြုကြေးနှင့် အခွန်အခများကို စာချုပ်ချုပ်ဆိုသည့်နေ့မှစ၍ သက်ဆိုင်ရာ ဝန်ကြီးဌာန၏ သတ်မှတ်နှုန်းထားအတိုင်း သတ်မှတ်ရက်အတွင်း အချိန်မီပေးဆောင်ရမည်။ ပေးဆောင်ထားသည့် ပြေစာအထောက် အထားမိတ္တူများကို "အငှားချထားသူ" ထံ လစဉ်ပေးပို့ရမည်။

(ဌ) လျှပ်စစ်ဓာတ်အားသုံးစွဲမှုကို တည်ဆဲဥပဒေစည်းမျဉ်းများနှင့်အညီ သုံးစွဲပြီး မီးဘေးကာကွယ်ရေးအစီအမံများ လုံလောက်စွာထားရှိရမည်။စက်ရုံ၏ သန့်ရှင်းရေး၊ အထွေထွေလုံခြုံရေးတို့ကိုလည်း တာဝန်ယူဆောင်ရွက်ရမည်။

(ဍ) "အငှားချထားသူ"၏ ခွင့်ပြုချက်ဖြင့် လျှပ်စစ်သွယ်တန်းခြင်း၊ အဝီစိတွင်းတူးခြင်း၊ ရေပိုက်သွယ်တန်းခြင်း၊ တယ်လီဖုန်းဆက်သွယ်တပ်ဆင်ခြင်းကို မိမိစရိတ်ဖြင့် ဆောင်ရွက် နိုင်သည်။ စာချုပ်သက်တမ်းကုန်ဆုံးပါက (သို့မဟုတ်) အငှားစာချုပ်ရပ်စဲခြင်းဖြစ်ပါက အဆိုပါပစ္စည်းများကို ပြန်လည်ဖြုတ်ယူခြင်း၊ ဖြတ်တောက်ခြင်းများကို "အငှားချထားသူ"၏ ခွင့်ပြုချက်ရရှိမှသာ ဆောင်ရွက်ခွင့်ရှိသည်။

(ဎ) အငှားချထားသည့်စက်ရုံတွင် တပ်ဆင်မှုများ၊ ပုံစံပြောင်းလဲမှုများ၊ စက်ပစ္စည်းအသစ်ဖြည့်စွက်တပ်ဆင်မှုများနှင့် တိုးချဲ့ဆောက်လုပ်မှုများအား လိုအပ်သလို ဆောင်ရွက်သွားနိုင်ပြီး ငှားရမ်းစာချုပ်သက်တမ်းကုန်ဆုံး၍ ပြန်လည်လွှဲပြောင်းပေးချိန်တွင်

မရွှေ့ပြောင်းနိုင်သော ပစ္စည်းများအားလုံး အစကြေးငွေပေးရန်မလိုဘဲ **"အငှားချထားသူ"** ပိုင်ပစ္စည်းများ အလိုအလျောက်ဖြစ် လာရမည်။

(ဏ) အငှားချထားသည့် စက်ရုံအတွက် အလုံးစုံအာမခံကို မြန်မာ့အာမခံဥပဒေပါ ပြဋ္ဌာန်းချက်များနှင့်အညီ ထားရှိရမည်ဖြစ်သည်။ အာမခံသက်တမ်း ကျော်လွန်မှုမရှိစေရေး တာဝန်ယူဆောင်ရွက်ရမည်။

(တ) အငှားချထားသည့်ပစ္စည်းများနှင့် စပ်လျဉ်း၍ မြေခွန်မှအပ စည်ပင်သာယာခွန်၊ အခြားအခွန်အခများ၊ ကုန်ထုတ်လုပ်မှုနှင့် သက်ဆိုင်သည့် အခွန်အခအမျိုးမျိုးတို့ကို ကျခံပေးဆောင်ရမည်။

(ထ) စာချုပ်သက်တမ်း တိုးမြှင့်ခြင်းမပြုလုပ်ပါက ဤစာချုပ်သက်တမ်း ကုန်ဆုံးသည့် နေ့မှ တစ်လအတွင်း **"အငှားချထားသူ"**သို့ အငှားချထားသည့် ပစ္စည်းများအားလုံးကို စတင်ငှားရမ်းခဲ့စဉ်က အခြေအနေအတိုင်း ပြုပြင်မွမ်းမံပြီး အဖိုးစားနားမပါရှိဘဲ **"အငှားချထားသူ"**၏ လက်ဝယ်အရောက် ပြန်လည်အပ်နှံရမည်။ သို့ရာတွင် အကျိုးအကြောင်းဆီလျော်မှုရှိသော ပွန်းပဲ့ခြင်းများအတွက် ပြောင်းလဲမှုများကို ခွင့်ပြုလက်ခံနိုင်သည်။

(ဒ) အမှတ်(၂၂)အကြီးစားစက်ရုံ(ဘီးလင်း)အား **Long Term Leasing** စနစ်ဖြင့် ငှားရမ်း၍ **"အငှားချထားသူ"**မှ **"အငှားချထားခြင်းခံရသူ"**သို့ စက်ရုံလွှဲပြောင်းချိန်တွင် စာချုပ်ဝင်နှစ်ဦးနှစ်ဖက်စစ်ဆေးပြီး စက်ရုံ၌ အမှန်တကယ်ကျန်ရှိသည့် ကုန်ကြမ်း၊ ကုန်ချောပစ္စည်းများအား နှစ်ဖက်ညှိနှိုင်းတန်ဖိုးဖြင့် လွှဲပြောင်း၍ဝယ်ယူရန် သဘောတူညီမည်ဖြစ်ပြီး အရောင်းအဝယ် စာချုပ် သီးခြားချုပ်ဆိုဆောင်ရွက်မည်ဖြစ်သည်။

(ဓ) ထုတ်လုပ်ထားသော ကုန်ချောပစ္စည်းများကို ပြင်ပဈေးကွက်တွင် မိမိကြိုက်နှစ်သက်သည့် ဈေးနှုန်းဖြင့် လွတ်လပ်စွာရောင်းချခွင့်၊ သိုလှောင်ခွင့်၊ သယ်ယူခွင့်ရှိသည်။

(န) **"အငှားချထားခြင်းခံရသူ"**မှ ဆောင်ရွက်မည့်လုပ်ငန်းအတွက် သက်ဆိုင်ရာဌာနဆိုင်ရာများ၏ လုပ်ငန်းဆောင်ရွက်ခွင့်ပြုမိန့်အထောက်အထားများထားရှိပြီး **"အငှားချထားသူ"**ထံ မိတ္တူတစ်စုံ အပ်နှံထားရမည်။

(ပ) အငှားချထားသည့် စက်ရုံ၏ အုပ်ချုပ်မှုနှင့် ကုန်ထုတ်လုပ်မှုအတွက် လိုအပ်သည့် ဒီဇယ်ဆီ၊ ဓာတ်ဆီနှင့်စက်ဆီ၊ချောဆီတို့အား **"အငှားချထားခြင်းခံရသူ"**၏ အစီအမံဖြင့် စီစဉ်ဆောင်ရွက်ရမည်။

(ဖ) စက်ရုံရှိမော်တော်ယာဉ်များ၊ ယန္တရားများနှင့်ပတ်သက်၍ စက်သုံးဆီနှင့် ပြုပြင်ထိန်းသိမ်းမှုများကို **"အငှားချထားခြင်းခံရသူ"**မှ တာဝန်ယူဆောင်ရွက်ပေးရမည်။

## “အငှားချထားသူ”၏ တာဝန်ဝတ္တရားများ

၁၆။ “အငှားချထားသူ”၏ တာဝန်ဝတ္တရားများမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

(က) “အငှားချထားသူ”သည် အငှားချထားသော မြေ၊ အဆောက်အအုံများ၊ စက်ပစ္စည်းများ၊ အခြားပစ္စည်းများ၊ မော်တော်ယာဉ်ယန္တရားများကို “အငှားချထားခြင်းခံရသူ ” အား ဤစာချုပ်သက်တမ်းအတွင်း ငှားရမ်းရန် သဘောတူညီရမည်။

(ခ) “အငှားချထားခြင်းခံရသူ”သို့ အငှားချထားသည့် အမှတ်(၂၂)အကြီးစားစက်ရုံ (ဘီးလင်း)ကို လွှဲပြောင်းပေးပြီး ကုန်ပစ္စည်းများ ထုတ်လုပ်ခွင့်ပေးရမည်။

(ဂ ) စက်ရုံနှင့်ပတ်သက်သည့် ဌာနအလိုက် သတ်မှတ်ထားသည့် လုပ်ကိုင်မှုနည်းစနစ်များ၊ စာရွက်စာတမ်းများ၊ စာရင်းဇယားများအား လိုအပ်သည်များ ဆောင်ရွက်နိုင်ရန် “အငှားချထားခြင်း ခံရသူ”အား စနစ်တကျ လွှဲပြောင်းပေးအပ်ရမည်။

(ဃ) စက်ရုံတွင် တပ်ဆင်ထားပြီးသော လျှပ်စစ်၊ရေ၊ တယ်လီဖုန်းတို့ကို “အငှားချထားခြင်းခံရသူ” အား ဆက်လက်အသုံးချခွင့်ပြုရမည်။

(င) အငှားချထားသည့် စက်ရုံအခြေအနေများကို ကြိုတင်အကြောင်းကြားစာပေးပို့၍ နည်းလမ်းတကျ လုပ်ပိုင်ခွင့်ပေးအပ်သော “အငှားချထားသူ”၏ ကိုယ်စားလှယ်များ စေလွှတ်ပြီး စစ်ဆေးနိုင်ခွင့်ရှိသည်။ သို့ရာတွင်ငင်းစစ်ဆေးခြင်းအတွက် စက်ရုံ၏ ကုန်ထုတ်လုပ်မှုလုပ်ငန်း ရပ်ဆိုင်းခြင်း၊ ထိခိုက်ခြင်းမဖြစ်စေရ။

(စ ) အငှားချထားသည့် စက်ရုံအတွက် ကျသင့်သည့် မြေခွန်ကို ပေးဆောင်ရမည်။

(ဆ) စက်ရုံတွင် အသုံးပြုသော သဘာဝဓာတ်ငွေ့၊ ရေနွေးငွေ့၊ လျှပ်စစ်၊ရေ၊ တယ်လီဖုန်းနှင့် ဆက်သွယ်ရေးဆိုင်ရာအသုံးပြုခြင်းနှင့် အခွန်အခများအား “အငှားချထားခြင်းခံရသူ” မှ လစဉ်အချိန်မီ ပေးဆောင်မှု ရှိ/မရှိ စစ်ဆေးရမည်။

(ဇ) စာချုပ်အပိုဒ်(၇)ပါ “အငှားချထားခြင်းခံရသူ”မှ ရင်းနှီးမြှုပ်နှံရန် ရည်မှန်းချက်များ အား သတ်မှတ်ကာလအတွင်း၊ အမှန်တကယ် အကောင်အထည်ဖော်နိုင်မှု ရှိ/မရှိ စိစစ် ဆောင်ရွက်ရမည်။အမှန်တကယ်ဆောင်ရွက်ခြင်းမရှိပါက “အငှားချထားသူ”မှ ဆက်လက် ဆောင်ရွက်ရန် သင့်/မသင့် “အငှားချထားခြင်းခံရသူ”နှင့် ပြန်လည်ညှိနှိုင်း ဆောင်ရွက် သွားမည်။

## ကုန်အမှတ်တံဆိပ်အသုံးပြုခြင်း

၁၇။ “အငှားချထားခြင်းခံရသူ”သည် တာယာနှင့်ရော်ဘာပစ္စည်းများကို ကိုယ်ပိုင်ကုန်အမှတ်တံဆိပ်ဖြင့် ထုတ်လုပ်လိုက ထုတ်လုပ်ခွင့်ရှိသည်။ သို့ရာတွင် အဆိုပါကုန်အမှတ်တံဆိပ်နှင့် စပ်လျဉ်း၍ မူပိုင်အခွင့်အရေးများကို ချိုးဖောက်ကြောင်း တရားစွဲဆိုခံရလျှင် “အငှားချထားခြင်းခံရသူ”၏ တာဝန်သာဖြစ်သည်။

၁၈။ **"အငှားချထားခြင်းခံရသူ"**သည် ကိုယ်ပိုင်ကုန်အမှတ်တံဆိပ်အား အသုံးပြုလိုပါက **"အငှားချထားသူ"**၏ သဘောတူညီချက်ဖြင့်သာ ဆောင်ရွက်ရမည်။

**ဓာတ်သတ္တုအရင်းအမြစ်များ**

၁၉။ စာချုပ်ပါစည်းကမ်းချက်များအတိုင်း လုပ်ကိုင်ဆောင်ရွက်နေစဉ်အတွင်း အငှားချထားသော မြေ၏ မြေပေါ်၊မြေအောက်မှ မမျှော်လင့်ဘဲ ဓာတ်သတ္တုအရင်းအမြစ်များ၊ ရေနံဓာတုဆိုင်ရာပစ္စည်းများ၊ သဘာဝသယံ ဇာတပစ္စည်းများ၊ ရှေးဟောင်းပစ္စည်းများ၊ ကျောက်မျက်ရတနာများ အစရှိသည်တို့ကိုတွေ့ရှိပါက **"အငှားချထားသူ"**ထံချက်ချင်းအကြောင်းကြားရမည်။ အဆိုပါ ပစ္စည်းများသည် **"အငှားချထားခြင်းခံရသူ"**နှင့် သက်ဆိုင်ခြင်းမပြုစေရ။ **"အငှားချထားသူ"**သည် အဆိုပါ ပစ္စည်းများကို **"အငှားချထားခြင်းခံရသူ"**၏ လုပ်ငန်းများ နစ်နာဆုံးရှုံးမှုမရှိစေဘဲ လွတ်လပ်စွာတူးဖော်ရယူခွင့်ရှိစေသည့်အပြင် နိုင်ငံတော်အစိုးရသို့ လွှဲပြောင်းတင်ပြခွင့်ရှိစေရမည်။

**ပတ်ဝန်းကျင်ထိန်းသိမ်းကာကွယ်ခြင်း**

၂၀။ **"အငှားချထားခြင်းခံရသူ"**အနေဖြင့် လုပ်ငန်းလုပ်ဆောင်မည့် **နေရာဒေသ**၏ ပတ်ဝန်းကျင်နေရာဒေသများအား ကောင်းစွာကာကွယ်ထိန်းသိမ်းစောင့်ရှောက်ထား**ရန် တာဝ**န်ရှိသည်။ ထို့အပြင် လေထု၊ရေထုနှင့်၊ မြေထုများ ညစ်ညမ်းခြင်းနှင့် အခြားသော **ပတ်ဝန်း**ကျင်ဆိုင်ရာ ထိခိုက်ပျက်စီးဆုံးရှုံးခြင်းအား ကာကွယ်ထိန်းချုပ်ခြင်းလုပ်ငန်းများကို **ဆောင်ရွက်**ရမည်။ ရေများသန့်စင်နိုင်သောစက်များတပ်ဆင်ပေးခြင်း၊ လေထုညစ်ညမ်းမှု မဖြစ်ပေါ်**စေရန်** အခိုးအငွေ့နှင့် အညစ်အကြေးစွန့်အစိတ်အပိုင်းများကို လုံခြုံစွာထားရှိပေးခြင်းဖြင့် အခြား**သော** ပတ်ဝန်းကျင်ဘေးအန္တရာယ်ကင်းရှင်းရေးဆိုင်ရာ လိုအပ်သော အကာအကွယ်အစီအစဉ်များ**ဆောင်ရွက်**ရမည်။ သို့ရာတွင် **"အငှားချထားသူ"** လက်ထက်က ဆောင်ရွက်ခဲ့သည့် လုပ်ငန်းစဉ်များအတိုင်း လုပ်ကိုင်ခွင့်ရှိစေရမည်။

**အကျိုးသက်ရောက်သည့်နေ့**

၂၁။ ဤစာချုပ်သည် **"အငှားချထားသူ"**နှင့် **"အငှားချထားခြင်းခံရသူ"**တို့ လက်မှတ်ရေးထိုးပြီး လုပ်ငန်းအာမခံကြေးငွေ ကျပ် **၃၈** သန်း ပေးသွင်းသည့်နေ့မှ**စ၍** အကျိုးသက်ရောက်မှုရှိစေရမည်။

**စာချုပ်ပြင်ဆင်ခြင်း**

၂၂။ ဤစာချုပ်ပါ **စည်းကမ်း**ချက်များကို ပြင်ဆင်**ခြင်း**၊ ပြောင်းလဲခြင်းနှင့် ထပ်မံဖြည့်စွက်ခြင်းပြုလုပ်လိုပါက စာချုပ်ဝင်နှစ်ဦးနှစ်ဖက်၏တရားဝင်စာဖြင့် သဘောတူညီချက်နှင့် စက်မှုဝန်ကြီးဌာန၊ ပစ္စည်းဝယ်ယူရောင်းချရေးနှင့် ဘဏ္ဍာရေးဆိုင်ရာကော်မတီအစည်းအဝေး အတည်ပြုချက်အရသာ ပြုလုပ်နိုင်သည်။

၂၃။ **"အငှားချထားခြင်းခံရသူ"**မှ စက်ရုံငှားရမ်းရာတွင် စီးပွားရေးအရ တွက်ခြေကိုက်မှုမရှိခြင်း၊ အခြား သော အဆင်မပြေမှုများရှိခြင်းကြောင့် စာချုပ်ပြင်ဆင်လိုပါက **"အငှားချထားသူ"**ထံ စာဖြင့် အကြောင်းကြားရမည်။ နှစ်ဦးနှစ်ဖက်ညှိနှိုင်းဆွေးနွေးမှုကို ၃ လ ထက်မပိုသောကာလအတွင်း ပြီးပြတ်အောင် ဆောင်ရွက်ရမည်။

စာချုပ်ပြန်လည်ညှိနှိုင်းခြင်း

၂၄။ စာချုပ်ပါစည်းကမ်းချက်များနှင့်အညီ အကောင်အထည်ဖော်ဆောင်ရွက်ရာတွင် လုပ်ငန်းလိုအပ်ချက်အရ (သို့မဟုတ်) ဤစာချုပ်တွင်မပါရှိသည့် ကိစ္စရပ်များပေါ်ပေါက်လာလျှင် စာချုပ်ဝင်နှစ်ဦးနှစ်ဖက်ညှိနှိုင်းခွင့်ရှိစေရမည်။

စာချုပ်ရုပ်သိမ်းခြင်း

၂၅။ (က) စာချုပ်ရုပ်သိမ်းခြင်းနှင့်စပ်လျဉ်း၍ ဤစာချုပ်ကို **အောက်ပါအကြောင်း**ရပ် တစ်ခုခုပေါ်ပေါက်ပါ က စက်မှုဝန်ကြီးဌာန၊ ပစ္စည်းဝယ်ယူရောင်းချရေးနှင့် ဘဏ္ဍာရေးဆိုင်ရာကော်မတီ အစည်းအဝေးသို့ တင်ပြအတည်ပြုချက်**ရယူ၍** ရုပ်သိမ်းခွင့်ရှိသည် -

(၁) မလွန်ဆန်နိုင်သော ဖြစ်ရပ်များ**ကြောင့်** အငှားချထားခြင်းခံရသည့် စက်ရုံရှိ ပစ္စည်းများ ပျက်စီးဆုံးရှုံး**သွား၍** "အငှားချထားခြင်းခံရသူ"က လုပ်ငန်းဆက်လက်ဆောင်ရွက်ရန် **မဖြစ်နိုင်**တော့ခြင်း။

(၂) စာချုပ်ဝင်တစ်ဖက်ဖက်**မှ စာချုပ်**ပါစည်းကမ်းချက်တစ်ရပ်ရပ်အား ဆောင်ရွက်ရန် ပျက်ကွက်ခြင်း။

(၃) စာချုပ်သက်တမ်း**ကုန်ဆုံး**ခြင်း။

(၄) "အငှားချထား**ခြင်းခံ**ရသူ"က လူမွဲအဖြစ်ခံယူသွားခြင်း။

(၅) စာချုပ်ဝင်နှစ်**ဖက်သ**ဘောတူရုပ်သိမ်းခြင်း။

(ခ) စာချုပ်သက်တမ်း**မကုန်**ဆုံးမီ စာချုပ်အားရုပ်သိမ်းလိုပါက ရုပ်သိမ်းလိုကြောင်း စာချုပ်ဝင်တစ်ဖက်ဖက်မှ **အခြား**တစ်ဘက်ဘက်သို့ ၆ လ ကြိုတင်၍ နို့တစ်စာပေးပို့ရမည်။ စက်မှုဝန်ကြီးဌာန၊ပစ္စ**ည်း**ဝယ်ယူရောင်းချရေးနှင့်ဘဏ္ဍာရေးဆိုင်ရာကော်မတီအစည်းအဝေးသို့ တင်ပြအ**တည်**ပြုချက်ရပြီးမှသာ တရားဝင်စာချုပ်ရုပ်သိမ်းခွင့်ရှိပြီး စာချုပ်ရုပ်သိမ်းခွင့်မရသေးမီ**ကာလ**အထိ ပေးဆောင်ရန်ရှိသော ငှားရမ်းခ၊ အလုပ်သမားခ အပါအဝင် အခွန်အခများကို **"အငှားချထားခြင်းခံရသူ"**က ပေးဆောင်ရမည်။

ပြန်လည်လွှဲပြောင်းပေးအပ်ခြင်း

၂၆။ "အငှားချထားခြင်းခံရသူ"သည် ဤစာချုပ်ပါ ငှားရမ်းခြင်းကာလကုန်ဆုံးသည့် အခါဖြစ်စေ၊ စာချုပ်ရုပ်သိမ်းသည့်အခါဖြစ်စေ၊ ယင်းသို့ကုန်ဆုံးသည့်နေ့ (သို့မဟုတ်) ရုပ်သိမ်းသည့်နေ့မှ တစ်လအတွင်း အငှားချထားသည့် စက်ရုံ၊ မြေ၊ အဆောက်အအုံ၊ စက်ပစ္စည်းကိရိယာများကို "အငှားချထားသူ"သို့ အဖိုးစားနားမပါရှိဘဲ ကောင်းမွန်သောအနေအထားဖြင့် ပြန်လည်လွှဲပြောင်း ပေးအပ်ရမည်။ သို့ရာတွင် "အငှားချထားခြင်း ခံရသူ" မှ ကုန်ပစ္စည်းထုတ်လုပ်မှုအတွက် တပ်ဆင်အသုံးပြုသော စက်ပစ္စည်းများမှအပ "အငှားချထားခြင်းခံရသူ"ဝယ်ယူထားသည့် ကျန်ရှိသော ရွှေ့ပြောင်းနိုင်သည့် ပစ္စည်းများအားလုံးကို "အငှားချထား ခြင်းခံရသူ" မှ ပြန်လည်ရယူပိုင်ခွင့်ရှိသည်။

မလွန်ဆန်နိုင်သည့် ဖြစ်ရပ်များ

၂၇။ မလွန်ဆန်နိုင်သော ဖြစ်ရပ်များဆိုသည်မှာ သဘာဝအလျောက်ကြုံတွေ့နိုင်သည့် ရေဘေး၊ လေဘေး၊ မီးဘေး၊ မြေငလျင်ဘေး စသည်များအပြင် နိုင်ငံတော်အစိုးရ၏ ကန့်သတ်တားမြစ်ချက်များ၊ တရားဥပဒေစိုးမိုးရေးနှင့် ငြိမ်ဝပ်ပိပြားမှုပျက်ပြယ်ခြင်း၊ စစ်ဖြစ်ခြင်းစသည်တို့နှင့် စာချုပ်ဝင် တစ်ဖက်ဖက်က လိုအပ်သော သတိ ဝီရိယနှင့် ဆောင်ရွက်စေကာမူမလွန်ဆန်၊ မကျော်လွှားနိုင်သည့် အလားတူဖြစ်ရပ်များဖြစ်ပြီး၊ ယင်းဖြစ်ရပ်များကြောင့် ငှားရမ်းသုံးစွဲမှုကို ထိခိုက်ဆုံးရှုံးစေလျှင် "အငှားချထားခြင်းခံရသူ" သည် "အငှားချထားသူ"သို့ နစ်နာဆုံးရှုံးမှုအတွက် လျော်ကြေးတောင်းခံခွင့်မရှိစေရ။

၂၈။ ထိုသို့ မလွန်ဆန်နိုင်သောဖြစ်ရပ်များ ပေါ်ပေါက်လာပါက ယင်းဖြစ်ရပ် ဖြစ်ပေါ်သည့်အချိန်မှ ၇ ရက် အတွင်း "အငှားချထားခြင်းခံရသူ"သည် "အငှားချထားသူ"သို့ ချက်ခြင်းစာဖြင့်ရေးသားအကြောင်းကြားရမည်။ "အငှားချထားသူ"က လက်ခံအတည်ပြုလျှင် မလွန်ဆန်နိုင်သောဖြစ်ရပ်မြောက်ပြီး စက်ရုံ၊မြေ၊ အဆောက်အအုံနှင့် စက်ပစ္စည်းများ ငှားရမ်းအသုံးပြုခွင့်နှင့် တိုက်ရိုက်သက်ဆိုင်သော ဖြတ်တောက်ကာလ အပိုင်းအခြားအတွက် ငှားရမ်းခကို သက်သာခွင့်ပြုနိုင်သည်။

၂၉။ အငှားချထားသည့် ပစ္စည်းအားလုံးကို လျော်ကန်သင့်မြတ်သော သတိဝီရိယဖြင့် ကောင်းမွန်စွာ ထိန်းသိမ်းထားပြီး လိုအပ်သောပြင်ဆင်မွမ်းမံမှုအားလုံးကို ပြုလုပ်ရမည်။ အကယ်၍ အဆိုပါပစ္စည်းအားလုံးဖြစ်စေ၊ တစ်စိတ်တစ်ဒေသဖြစ်စေ မီးလောင်ခြင်း၊ မြေငလျင်လှုပ်ခြင်း၊ လေမုန်တိုင်း ကျရောက်ခြင်း၊ ရေကြီးခြင်း၊ ရုန်းရင်းဆန်ခတ်မှုဖြစ်ပေါ်ခြင်း(သို့မဟုတ်) အခြားမလွန်ဆန်နိုင်သည့် အကြောင်းတရားများကြောင့် ပျက်စီးသွား၍ ဆက်လက်အသုံးပြုရန် သင့်လျော်သောကျန်ရှိနေသည့် အစိတ်အပိုင်းအတွက် ငှားရမ်းခကို အချိုးကျ လျှော့ပေါ့ ပေးရန် အမြန်ဆုံးအကြောင်းကြားရမည်။

၃၀။ သို့ရာတွင် အငှားချထားသည့်ပစ္စည်းများ၏ ပျက်စီးဆုံးရှုံးခြင်းဖြစ်ပေါ်ရခြင်းမှာ "အငှားချထားခြင်းခံရသူ"၏ မှားယွင်းသောလုပ်ဆောင်ချက်၊ သင့်လျော်သလိုဆောင်ရွက်ရန် ပျက်ကွက်ခြင်း (သို့မဟုတ်)ပေါ့လျော့ခြင်းကြောင့် ဖြစ်ပွားပါက "အငှားချထားခြင်းခံရသူ"သည် ဤစာပိုဒ်ပါ အခွင့်အရေးကို ရယူခံစားနိုင်ခွင့်မရှိသည့်အပြင် ယင်းပစ္စည်းများအား နဂိုမူလအခြေအနေသို့ရောက်ရှိအောင် ပြန်လည်ပြင်ဆင်မွမ်းမံရသည့် ကုန်ကျစရိတ်အားလုံးကို ပေးချေရမည်။

**အငြင်းပွားမှုဖြေရှင်းခြင်း**

၃၁။ ဤစာချုပ်နှင့်စပ်လျဉ်း၍ အငြင်းပွားမှုတစ်စုံတစ်ရာ ပေါ်ပေါက်လာပါက ထိုအငြင်းပွားမှုကို ငြိမ်းချမ်းသောနည်းလမ်းဖြင့် နှစ်ဦးနှစ်ဖက်ဖြေရှင်းကြရမည်။ ထိုကဲ့သို့ ဖြေရှင်း၍ မရနိုင်ပါက ဥပဒေ နှင့်အညီ သက်ဆိုင်ရာ စီရင်ပိုင်ခွင့်ရှိသော တရားရုံး၏ အဆုံးအဖြတ်ကို ခံယူရမည်။

**Premium ကြေးပေးသွင်းခြင်း**

၃၂။ အမှတ်(၂၂)အကြီးစားစက်ရုံ(ဘီးလင်း)၏ မြေနှင့်အဆောက်အအုံများအား ငှားရမ်းခြင်းအတွက် မြေအသုံးချမှု ပရီမီယမ် (Land Use Premium)အဖြစ် **ကျပ် ၁၃ သန်း** (ကျပ် တစ်ဆယ့်သုံးသန်းတိတိ)အား စာချုပ်လက်မှတ်ရေးထိုးသည့်နေ့မှစ၍ တစ်ပတ်အတွင်း ပေးသွင်းရမည်။ Premium ကြေး ပေးသွင်းပြီးမှ သာ ငှားရမ်းခြင်းစာချုပ်အတည်ဖြစ်မည်။

၃၃။ **"အငှားချထားခြင်းခံရသူ"**က Premium ကြေး ပေးသွင်းရန် နောက်ကျပါက ရက်သတ္တပတ်နောက်ကျတိုင်း ရက်လွန်ကြေးအဖြစ် ပေးသွင်းသော Premium ကြေး၏ ၀.၅ ရာခိုင်နှုန်းကို နောက်ကျဒဏ်ကြေးအဖြစ်ပေးသွင်းရမည်ဖြစ်သည်။ တစ်ပတ်မပြည့်ဘဲရက်စွန်းလျှင်လည်း အလားတူဒဏ်ကြေး ပေးဆောင်ရမည်ဖြစ်သည်။

**လုပ်ငန်းအာမခံကြေးပေးသွင်းခြင်း**

၃၄။ **"အငှားချထားခြင်းခံရသူ"**သည် စာချုပ်လက်မှတ်ရေးထိုးသည့်နေ့မှစ၍ တစ်ပတ်အတွင်း လုပ်ငန်းအာမခံကြေးငွေအဖြစ် တစ်နှစ်ငှားရမ်းခ၏ ၁၀ ရာခိုင်နှုန်းဖြစ်သော **ကျပ် ၃၈ သန်း** (ကျပ် သုံးဆယ့်ရှစ်သန်းတိတိ)ကို အမှတ်(၂)အကြီးစား စက်မှုလုပ်ငန်း၊ ဘဏ္ဍာရေးဌာနသို့ ပေးသွင်းရမည်။ **လုပ်ငန်းအာမခံကြေးငွေ ပေးသွင်းပြီးမှသာ စာချုပ်အတည်ဖြစ်မည်။**

၃၅။ **"အငှားချထားခြင်းခံရသူ"**မှ စာချုပ်ပါ စည်းကမ်းချက် တစ်ရပ်ရပ်ကို ဖောက်ဖျက်ပါက လုပ်ငန်း အာမခံကြေးငွေကို **"အငှားချထားသူ"**မှ သိမ်းယူမည်ဖြစ်ပြီး ကုမ္ပဏီအား အမည်ပျက်စာရင်း (Black List )ပေးသွင်းသွားမည်ဖြစ်သည်။

ပျက်ကွက်ခြင်း

၃၆။ **"အငှားချထားသူ"**နှင့် **"အငှားချထားခြင်းခံရသူ"**သည် စာချုပ်ပါစည်းကမ်းချက် တစ်ရပ်ရပ်ကို ဆောင်ရွက်ရန် (သို့မဟုတ်)လိုက်နာရန် ပျက်ကွက်ခြင်းကြောင့် **"အငှားချထားခြင်းခံရသူ"** (သို့မဟုတ်) **"အငှားချထားသူ"**က ယင်းကဲ့သို့ပျက်ကွက်မှုများကို ပြုပြင်ရန် (သို့မဟုတ်) လိုက်နာရန် **"အငှားချထားခြင်းခံရသူ"** (သို့မဟုတ်) **"အငှားချထားသူ"**သို့ အကြောင်းကြားစာပေးပို့ပြီးနောက် အကြောင်းကြားစာပါ ကာလအတွင်း လိုက်နာမှုမရှိပါက ပျက်ကွက်မှုအဖြစ် သတ်မှတ်မည်ဖြစ်သည်။

မြေသို့ ပြန်လည်ဝင်ရောက်ပိုင်ခွင့်

၃၇။ **"အငှားချထားခြင်းခံရသူ"**သည် စာချုပ်ပါ စည်းကမ်းချက်တစ်ရပ်ရပ်ကို ဆောင်ရွက်ရန် (သို့မဟုတ်) လိုက်နာရန်ပျက်ကွက်ခြင်းကြောင့် **"အငှားချထားသူ"** က ယင်းကဲ့သို့ ပျက်ကွက်မှုများကို ပြုပြင်ရန်(သို့မဟုတ်)လိုက်နာရန် **"အငှားချထားခြင်းခံရသူ"**သို့ အကြောင်းကြားစာပေးပို့ပြီးနောက် အကြောင်းကြားစာပါ ကာလအတွင်းလိုက်နာမှုမရှိပါက **"အငှားချထားသူ"** သည် အငှားချထားသည့် မြေ၊စက်ရုံနှင့် အဆောက်အအုံ၊ စက်ကိရိယာများကို ပြန်လည်ဝင်ရောက်၍ လက်ဝယ်ရယူခွင့်ရှိသည်။ ထိုအခါ အငှားစာချုပ်သည် ရပ်စဲ၍ ဆုံးခန်းတိုင်ရောက်ရမည်။ သို့ရာတွင် ယင်းသို့ဝင်ရောက်၍ လက်ရောက်ရယူခြင်းသည် **"အငှားချထားသူ"** က **"အငှားချထားခြင်းခံရသူ"** ထံမှ ရရန်ရှိသော ငှားရမ်းခ(သို့မဟုတ်) ပျက်စီးဆုံးရှုံးမှုအတွက် လျော်ကြေးတောင်းဆိုခွင့်ကို ထိခိုက်ခြင်းမရှိစေရ။

**အကြောင်းကြားစာ**

၃၈။ နို့တစ်စာများ(သို့မဟုတ်)အခြားအချက်အလက် အကြောင်းကြားချက်များကို မြန်မာဘာသာဖြင့်ဖြစ်စေ၊ အင်္ဂလိပ်ဘာသာဖြင့်ဖြစ်စေရေးသားပြီး စာတိုက်မှတ်ပုံတင် ချောစာဖြင့် ဖြစ်စေ၊ အီးမေးလ်ဖြင့်ဖြစ်စေ၊ ဖက်(စ်)ဖြင့်ဖြစ်စေ၊ အပြည်ပြည်ဆိုင်ရာ ဆက်သွယ်ရေးနည်းစနစ်ဖြင့်ဖြစ်စေ သက်ဆိုင်ရာအဖွဲ့သို့ဆက်သွယ်ဆောင်ရွက်နိုင်သည့် ဆက်သွယ်ရန်လိပ်စာမှာ စာချုပ်တွင်ဖော်ပြပါရှိသော လိပ်စာအတိုင်းဖြစ်ပါသည် -

(က) အငှားချထားသူ

| | | |
|---|---|---|
| (၁) | အမည် | ဦးမြင့်နိုင်၊ ဦးဆောင်ညွှန်ကြားရေးမှူး |
| (၂) | လိပ်စာ | အမှတ်(၂)အကြီးစားစက်မှုလုပ်ငန်း စက်မှုဝန်ကြီးဌာန၊ ရုံးအမှတ်(၃၀)၊ နေပြည်တော် |
| (၃) | ဖုန်းအမှတ် | ၀၆၇-၄၀၅၁၆၁ |
| (၄) | ဖက်(စ်)အမှတ် | ၀၆၇-၄၀၅၀၅၈ |

(ခ) အငှားချထားခြင်းခံရသူ

| | | |
|---|---|---|
| (၁) | အမည် | ဦးမောင်မောင်ဌေး၊ ဒါရိုက်တာ |
| (၂) | လိပ်စာ | အမှတ်(၄၇)၊ဘုရင့်နောင်လမ်းမကြီး၊ လှိုင်မြို့နယ်၊ ရန်ကုန်မြို့ အောင်ထက်မြက်ကုမ္ပဏီလီမိတက် |
| (၃) | ဖုန်းအမှတ် | ၀၁ ၆၁၈၁၅၀၊ ၀၁ ၆၁၈၄၆၁၊ ၀၉ ၅၀၀၀၇၂၀ |
| (၄) | ဖက်(စ်)အမှတ် | ၀၁ ၂၅၀၂၈၀ |

(ဂ) ယခုကဲ့သို့ စာရွက်စာတမ်းများ ပေးပို့ဆက်သွယ်သည့်အခါများတွင် အခြားတစ်ဖက်မှ လက်ခံရရှိကြောင်းပြန်ကြားစာရရှိပြီးမှသာ ပေးပို့ခြင်းကိုအတည်ပြုနိုင်သည်။ အကယ်၍ လိပ်စာပြောင်းလဲခဲ့ပါက စာဖြင့်ရေးသားအကြောင်းကြားရမည်။

၃၉။ ဤစာချုပ်တွင်ပါရှိသော မြေပုံနှင့်နောက်ဆက်တွဲများသည် စာချုပ်၏ တစ်စိတ်တစ်ဒေသ ဖြစ်သည်။ အထက်ဖော်ပြပါစည်းကမ်းချက်များကို သဘောတူလက်ခံပါသဖြင့် တစ်ဖက်ပါအသိသက်သေ အစုံအလင်ရှေ့မှောက်တွင် ၂၀၁၄ ခုနှစ်၊ နိုဝင်ဘာလ ရက်၌ **"အငှားချထားသူ"**နှင့် **"အငှားချထားခြင်းခံရသူ"**တို့ လက်မှတ်ရေးထိုးကြပါသည်-

| | |
|---|---|
| **"အငှားချထားသူ"(ကိုယ်စား)** | **"အငှားချထားခြင်းခံရသူ"(ကိုယ်စား)** |
| ဦးမြင့်နိုင် | ဦးမောင်မောင်ဌေး |
| ဦးဆောင်ညွှန်ကြားရေးမှူး | Director |
| အမှတ်(၂)အကြီးစားစက်မှုလုပ်ငန်း | ၁၂/ကတတ(နိုင်)၀၀၆၀၃၁ |
| စက်မှုဝန်ကြီးဌာန | အောင်ထက်မြက်ကုမ္ပဏီလီမိတက် |
| | အမှတ်(၄၇)၊ဘုရင့်နောင်လမ်းမကြီး၊ |
| | ရန်ကုန်တိုင်းဒေသကြီး |

## အသိသက်သေများ

၁။ ဦးဌေးဝင်းအောင်
ညွှန်ကြားရေးမှူး
စီမံရေးဌာန
အမှတ်(၂)အကြီးစားစက်မှုလုပ်ငန်း

၂။ ဒေါ်မိမိဝင်းညီ
ညွှန်ကြားရေးမှူး
ဘဏ္ဍာရေးဌာန
အမှတ်(၂)အကြီးစားစက်မှုလုပ်ငန်း

၁။ ဒေါက်တာထင်ကျော်ဦး
၁၂/ရကန(နိုင်)၀၄၄၀၂၉
ဒါရိုက်တာ
အောင်ထက်မြက်ကုမ္ပဏီလီမိတက်

၂။ ဦးဧွှေးဝင်း
၅/မရန(နိုင်)၀၆၁၄၇၄
မန်နေဂျာ
အောင်ထက်မြက်ကုမ္ပဏီလီမိတက်

စက်မှုဝန်ကြီးဌာန



# အမှတ်(၂)အကြီးစားစက်မှုလုပ်ငန်း

နှင့်

# အောင်ထက်မြက်ကုမ္ပဏီလီမိတက်

တို့

ချုပ်ဆိုသော

# အမှတ်(၂၂)အကြီးစားစက်ရုံ(ဘီးလင်း)၏

# မြေ၊ အဆောက်အအုံ၊ စက်ပစ္စည်းများကို

# ငှားရမ်းသည့်သဘောတူစာချုပ်

ရက်စွဲ ၊ ၂၀၁၄ ခုနှစ် နိုဝင်ဘာလ ၁ ရက်

နေရာ ၊ နေပြည်တော်။




**စက်မှုဝန်ကြီးဌာန**

**အမှတ်(၂)အကြီးစားစက်မှုလုပ်ငန်းနှင့်**

**အောင်ထက်မြက် ကုမ္ပဏီလီမိတက်**

**တို့ ချုပ်ဆိုသော**

**အမှတ်(၂၂)အကြီးစားစက်ရုံ(ဘီးလင်း)၏**

**မြေ၊ အဆောက်အအုံ၊ စက်ပစ္စည်းများကို**

**ငှားရမ်းသည့်သဘောတူစာချုပ်**

ဤစာချုပ်ကို နေပြည်တော်တွင် ၂၀၁၄ ခုနှစ်၊ နိုဝင်ဘာလ ၁ ရက်နေ့၌ ဦးဆောင်ညွှန်ကြားရေးမှူး ဦးမြင့်နိုင် ကိုယ်စားပြုသော အမှတ်(၂)အကြီးစားစက်မှုလုပ်ငန်း၊ စက်မှုဝန်ကြီးဌာန၊ (နောင်တွင် **"အငှားချထားသူ"** ဟု ခေါ်တွင်စေပြီး ယင်းစကားရပ်၌ ၎င်းအားဆက်ခံသူနှင့် ဥပဒေအရ လွှဲအပ်ခြင်းခံရသူများ ပါဝင်သည်)က တစ်ဖက်

နှင့်

ဦးမောင်မောင်ဌေး( နိုင်ငံသားစိစစ်ရေးကတ်ပြားအမှတ်၊၁၂/ကတတ( နိုင်)၀၀၆၀၃၁) Managing Director ကိုယ်စားပြုသော အမှတ်(၄၇)၊ ဘုရင့်နောင်လမ်းမကြီး၊ လှိုင်မြို့နယ်၊ ရန်ကုန်မြို့တွင် ရုံးခန်းဖွင့်လှစ်ထားသည့် **အောင်ထက်မြက်ကုမ္ပဏီလီမိတက်** (နောင်တွင် **"အငှားချထားခြင်းခံရသူ"**ဟု ခေါ်တွင်စေပြီး ယင်းစကားရပ်၌ ၎င်းအားဆက်ခံသူများ၊ တရားဝင်ကိုယ်စားလှယ်များနှင့် ဥပဒေအရလွှဲအပ်ခြင်းခံရသူများပါဝင်သည်)က အခြားတစ်ဖက်တို့သည် တစ်ဖက်ပါစည်းကမ်းချက် များကို သတ်မှတ်၍ နှစ်ဦးသဘောတူချုပ်ဆိုကြပါသည်-




**ရည်ရွယ်ချက်**

၁။ **"အငှားချထားသူ"**ပိုင်ဆိုင်သော မွန်ပြည်နယ်၊ ဘီးလင်းမြို့ရှိ အမှတ်(၂၂)အကြီးစားစက်ရုံ (ဘီးလင်း)ကို **"အငှားချထားခြင်းခံရသူ"**က ငှားရမ်းပြီး တာယာနှင့်ရော်ဘာပစ္စည်းထုတ်လုပ်မှု လုပ်ငန်းများအား ဆောင်ရွက်နိုင်ရန် ရည်ရွယ်လျက် ဤငှားရမ်းသည့် သဘောတူစာချုပ်ကို ချုပ်ဆိုခြင်း ဖြစ်သည်။

**အာမခံခြင်းနှင့် ကိုယ်စားပြုခြင်း**

၂။ **"အငှားချထားသူ"**သည် (နောက်ဆက်တွဲ 'က'မှ 'င' အထိ) အသေးစိတ်ဖော်ပြထားသော စက်ရုံ၊ မြေ၊ အဆောက်အအုံနှင့် စက်ပစ္စည်းများကို တရားဝင်ပိုင်ဆိုင်သူဖြစ်ပြီး **"အငှားချထားခြင်းခံရသူ"**သည် စာချုပ်ရည်ရွယ်ချက်ပါ လုပ်ငန်းများကို အကောင်အထည်ဖော်ဆောင်ရွက်ရန် ငွေကြေးပြည့်စုံပြီး စာချုပ်ပါလုပ်ငန်းကို လုပ်ကိုင်ခွင့်ရှိသူဖြစ်သည်။ စာချုပ်တွင် လက်မှတ်ရေးထိုးမည့်သူများသည် ဤစာချုပ်တွင် လက်မှတ်ရေးထိုးရန် အခွင့်အာဏာရှိသူများဖြစ်ကြောင်းကို အသီးသီး အာမခံကြပါသည်။

**အငှားချထားမည့် ပစ္စည်းများ**

၃။ အောက်ပါ အငှားချထားသူပိုင် စက်ရုံ၊ မြေ၊ အဆောက်အအုံများ၊ စက်ပစ္စည်းကိရိယာများ၊ အခြားပစ္စည်းများနှင့် မော်တော်ယာဉ်ယန္တရားများကို **"အငှားချထားခြင်းခံရသူ"**အား ငှားရမ်းမည် ဖြစ်ပါသည်-

(က) စက်ရုံအမည်နှင့်တည်နေရာ — မွန်ပြည်နယ်၊ ဘီးလင်းမြို့နှင့် ၄ မိုင်ခန့် အကွာ (ရန်ကုန်မြို့မှ ၁၂၂ မိုင် ၆ ဖာလုံ)




(ခ) မြေဧရိယာ(ဧက) — စက်ရုံအကျယ်အဝန်း ၁၂၉.၇၉ ဧက မြေစာရင်း ဦးစီးဌာနမှ ရေးဆွဲထုတ်ပေးထားသောမြေပုံကိုနောက်ဆက်တွဲ (က) ဖြင့် ဖော်ပြထားပါသည်။

(ဂ) အဆောက်အအုံများ — အဆောက်အအုံများစာရင်းကို နောက်ဆက်တွဲ(ခ)ဖြင့် ဖော်ပြထားပါသည်။

(ဃ) စက်ပစ္စည်းကိရိယာများ — စက်ပစ္စည်းကိရိယာများစာရင်းကို နောက်ဆက်တွဲ(ဂ)ဖြင့် ပူးတွဲဖော်ပြထားပါသည်။

(င) အခြားပစ္စည်းများ — အခြားပစ္စည်းများစာရင်းကို နောက်ဆက်တွဲ(ဃ)ဖြင့် ပူးတွဲဖော်ပြထားပါသည်။

(စ) မော်တော်ယာဉ်ယန္တရားများ — မော်တော်ယာဉ်ယန္တရားများစာရင်းကို နောက်ဆက်တွဲ(င)ဖြင့် ပူးတွဲဖော်ပြထားပါသည်။

**စာချုပ်သက်တမ်း**

၄။ စာချုပ်သက်တမ်းမှာ ဤစာချုပ်အသက်ဝင်သောနေ့ ၂၀၁၄ ခုနှစ် နိုဝင်ဘာလ ၁ ရက်နေ့မှစ၍၊ ၂၀၃၄ ခုနှစ် နိုဝင်ဘာလ ၁ ရက်နေ့အထိ နှစ် ၂၀ ဖြစ်ပြီး၊ ငှားရမ်းသက်တမ်းကုန်ဆုံးပြီးနောက် ဆက်လက်ငှားရမ်းလိုပါက စာချုပ်သက်တမ်းအား တစ်ကြိမ်လျှင် ၅ နှစ်ဖြင့် သက်တမ်းနှစ်ကြိမ်တိုးမြှင့်ငှားရမ်းနိုင်သည်။ **"အငှားချထားခြင်းခံရသူ"** သည် ငှားရမ်းခနှုန်းထားဖော်ပြလျက် အကျိုးအကြောင်းခိုင်လုံစွာဖြင့် စာချုပ်သက်တမ်းတိုးမြှင့်ပေးပါရန် **"အငှားချထားသူ"**ထံ စာချုပ်သက်တမ်းမကုန်ဆုံးမီ ၆ လ ကြိုတင်၍ စာဖြင့်တင်ပြရမည်။ **"အငှားချထားသူ"** က သဘောတူညီလျှင် စာချုပ်သက်တမ်းတိုးမြှင့်နိုင်သည်။




**ဆိုင်းငံ့ကာလသတ်မှတ်ခြင်း**

၅။ ပြင်ဆင်ချိန်ကာလ ၄ လအား ဆိုင်းငံ့ကာလအဖြစ် သတ်မှတ်ပြီး အဆိုပါကာလသည် စာချုပ်ချုပ်ဆိုသည့်နေ့မှစ၍ သတ်မှတ်ရမည်။ အဆိုပါကာလအတွင်း တာယာမိုလ်အသစ်နှင့်ဆက်စပ်ပစ္စည်းများဝယ်ယူခြင်း၊ ကုန်ကြမ်းပစ္စည်းစုဆောင်းခြင်း ဆောင်ရွက်နိုင်ရန်ဖြစ်သည်။ သို့ရာတွင် ဝန်ထမ်းလစာနှင့် အခြားကုန်ကျစရိတ်များကို **"အငှားချထားခြင်းခံရသူ"** မှ စာချုပ်ချုပ်ဆိုသည့်နေ့မှစ၍ပေးချေဆောင်ရွက်ရပါမည်။

**"အငှားချထားခြင်းခံရသူ"မှ ရင်းနှီးမြှုပ်နှံရန် ရည်မှန်းချက်**

၆။ **"အငှားချထားခြင်းခံရသူ"**သည် စက်ရုံအားငှားရမ်းပြီး ၅ နှစ်ကာလအတွင်း US$ ၇,၀၀၀,၀၀၀ ခန့် တန်ဖိုးရှိ စက်၊စက်ပစ္စည်း ၊ စက်အရန်ပစ္စည်း၊ တာယာမိုလ်၊ လုပ်ငန်းသုံးအထောက်အကူပြုပစ္စည်းများ၊ တိုးချဲ့ ဝယ်ယူဖြည့်တင်းရင်းနှီးမြှုပ်နှံရန် ရည်မှန်းပါသည်။

**လွှဲပြောင်းပေးမည့်ဝန်ထမ်း**

၇။ လွှဲပြောင်းပေးမည့် ဝန်ထမ်းအင်အားမှာ အောက်ပါအတိုင်းဖြစ်ပြီး နောက်ဆက်တွဲ(စ)ဖြင့် ဖော်ပြအပ်ပါသည်-

| စဉ် | လစာနှုန်း(ကျပ်) | ဦးရေ |
|---|---|---|
| (က) | ၂၂၀၀၀၀-၂၀၀၀-၂၃၀၀၀၀ | ၁ |
| (ခ) | ၂၀၀၀၀၀-၂၀၀၀-၂၁၀၀၀၀ | ၁ |
| (ဂ) | ၁၈၀၀၀၀-၂၀၀၀-၁၉၀၀၀၀ | ၆ |
| (ဃ) | ၁၆၀၀၀၀-၂၀၀၀-၁၇၀၀၀၀ | ၁၂ |
| (င) | ၁၄၀၀၀၀-၂၀၀၀-၁၅၀၀၀၀ | ၉ |
| | အရာထမ်းစုစုပေါင်း | ၂၉ |



| စဉ် | လစာနှုန်း(ကျပ်) | ဦးရေ |
|---|---|---|
| (စ) | ၁၀၅၀၀၀-၁၀၀၀-၁၁၀၀၀၀ | ၁၆၀ |
| (ဆ) | ၉၉၀၀၀-၁၀၀၀-၁၀၄၀၀၀ | ၅၂ |
| (ဇ) | ၉၃၀၀၀-၁၀၀၀-၉၈၀၀၀ | ၅၉ |
| (ဈ) | ၈၇၀၀၀-၁၀၀၀-၉၂၀၀၀ | ၄၂ |
| (ည) | ၈၁၀၀၀-၁၀၀၀-၈၆၀၀၀ | ၃၇ |
| (ဋ) | ၇၅၀၀၀-၁၀၀၀-၈၀၀၀၀ | ၇၀ |
| | အမှုထမ်းစုစုပေါင်း | ၄၂၀ |
| (ဌ) | နေ့စား | ၁ |
| | ဝန်ထမ်းစုစုပေါင်း | ၄၅၀ |

**ဝန်ထမ်းရေးရာကိစ္စရပ်များ**

၈။ ပြင်ပဝန်ထမ်းစည်းကမ်းချက်ဖြင့်လွှဲပြောင်းပေးမည့်ဝန်ထမ်းများနှင့်ပတ်သက်၍ **"အငှားချထားခြင်းခံရသူ"**မှ အောက်ပါ စည်းကမ်းချက် များနှင့်အညီ လိုက်နာဆောင်ရွက်ရမည်-

(က) စက်ရုံရှိပြင်ပဝန်ထမ်းစည်းကမ်းချက်ဖြင့် လွှဲပြောင်းပေးမည့်ဝန်ထမ်းများ၏ ဝန်ထမ်းလစာနှင့်ထောက်ပံ့ကြေးများကို စာချုပ်ချုပ်ဆိုပြီးသည့် အချိန်မှစ၍ လစဉ်လစာထုတ်ရက်တွင် ထုတ်ပေးရမည်။

(ခ) အကြောင်းတစ်စုံတစ်ရာကြောင့် နိုင်ငံတော်မှ လစာနှုန်းထားများပြောင်းလဲခဲ့လျှင် ပြောင်းလဲသည့် နှုန်းထားအတိုင်း ထုတ်ပေးရမည်။

(ဂ) အခါအားလျော်စွာ ရာထူးတိုးမြှင့်ခြင်း၊ နှစ်တိုးတိုးမြှင့်ခြင်းခံရသော ဝန်ထမ်းများအတွက် တိုးမြှင့်လစာနှင့် နှစ်တိုးကို ခံစားခွင့်ပြုရမည်။

(ဃ) **"အငှားချထားခြင်းခံရသူ"**သည် လက်ရှိတာဝန်ထမ်းဆောင်နေသော ဝန်ထမ်းများအား ဆက်လက်တာဝန်ပေးခန့်အပ်ရမည်။




(င ) ဝန်ထမ်းများ၏လစာ၊နှစ်တိုး၊စရိတ်နှင့်ထောက်ပံ့ကြေးများအား နိုင်ငံတော်၏ ခွင့်ပြုနှုန်းထားများအတိုင်း **"အငှားချထားခြင်းခံရသူ"**မှ ဆက်လက်ပေးဆောင်ရမည်။ မူရင်းလစာအား နိုင်ငံတော်သတ်မှတ်နှုန်းထားထက်ပို၍မပေးရ။ နိုင်ငံတော်မှ အခါအားလျော်စွာ ဝန်ထမ်းများအတွက် ထောက်ပံ့ချီးမြှင့်ရန် သတ်မှတ်ထားသော ထောက်ပံ့ကြေးကို **"အငှားချထားခြင်းခံရသူ"** မှ တာဝန်ယူ၍ ဝန်ထမ်းများသို့ ထောက်ပံ့ချီးမြှင့်ပေးရမည်။

(စ ) စက်ရုံဝန်ထမ်းအား အငှားချထားသည့် စက်ရုံနှင့်ပတ်သက်သည့် လုပ်ငန်းတာဝန်ကိုသာ ပေးအပ်ရမည်။ အခြားလုပ်ငန်းတာဝန်များ ပေးအပ်လိုပါက စက်မှုဝန်ကြီးဌာနသို့ တင်ပြ၍ အတည်ပြုချက်ယူရမည်။

(ဆ) ဝန်ထမ်းများ၏လူမှုဖူလုံရေးလစဉ်ထည့်ဝင်ကြေးကို **"အငှားချထားခြင်းခံရသူ"**မှ ဝန်ထမ်းလစာ၏ ၃ ရာခိုင်နှုန်း ကျခံပေးသွင်းရမည်။

(ဇ ) ဝန်ထမ်းများ၏ လူမှုဖူလုံရေးအကျိုးခံစားခွင့်ရရှိရေးအတွက် **"အငှားချထားခြင်းခံရသူ"**မှ တာဝန်ယူရမည်။

(ဈ ) ဝန်ထမ်းများ၏ ပင်စင်ထည့်ဝင်ကြေးကို **"အငှားချထားခြင်းခံရသူ"**မှ တာဝန်ယူရမည်။

(ည) ဝန်ထမ်းများ၏ သက်သာချောင်ချိရေးကိစ္စများကို **"အငှားချထားခြင်းခံရသူ"**မှ တာဝန်ယူရမည်။

(ဋ ) ဝန်ထမ်းများလုပ်ငန်းခွင်တွင် မတော်တဆထိခိုက်မှုဖြစ်ပွားပါက ဥပဒေအရ လိုအပ်သည်များကို **"အငှားချထားခြင်း ခံရသူ"**မှ တာဝန်ယူဆောင်ရွက်ပေးရမည်။

(ဌ ) စက်ရုံလွှဲပြောင်းသည့်အခါ ပါရှိသောဝန်ထမ်းများအနက် ရာထူးမှနုတ်ထွက်လိုခြင်း၊ နှစ်ပြည့် (သို့မဟုတ်) သက်ပြည့်အငြိမ်းစားယူခြင်းများရှိပါက **"အငှားချထားသူ"**ထံ တင်ပြဆောင်ရွက်ရမည်။




(ဍ) လွှဲပြောင်းပေးသည့်ဝန်ထမ်းများကို ဝန်ထမ်းဆိုင်ရာပြစ်မှု၊ တာဝန်ပျက်ကွက်မှုနှင့် အခြားအကြောင်းအချက်များကြောင့် ဝန်ထမ်းစည်းမျဉ်းစည်းကမ်းများအရ အရေးယူရန်လိုအပ်ပါက **"အငှားချထားသူ"** နှင့် **"အငှားချထားခြင်းခံရသူ"**တို့ ပါဝင်သည့် စုံစမ်းစစ်ဆေးရေးအဖွဲ့ဖြင့်ဖွဲ့စည်းပြီး လုပ်ငန်းဌာနအကြီးအကဲနှင့် ဝန်ကြီးဌာနတို့၏ အတည်ပြုချက်အရဆောင်ရွက်ရမည်။

(ဎ) လွှဲပြောင်းပေးမည့်ဝန်ထမ်း(အရာထမ်း/အမှုထမ်း)များမှ ဝန်ကြီးဌာနနှင့် လုပ်ငန်း(ရုံးချုပ်)၏ လိုအပ်ချက်ရှိလာပါက **"အငှားချထားသူ"** မှ **"အငှားချထားခြင်းခံရသူ"**နှင့် ညှိနှိုင်း၍ စက်ရုံ၊ ဌာနတစ်ခုခုသို့ ပြောင်းရွှေ့တာဝန်ပေးအပ်နိုင်ပြီး ၎င်းဝန်ထမ်း၏နေရာအတွက် ဖြည့်တင်းပေးလိုက **"အငှားချထားသူ"** မှ အစားထိုးဖြည့်တင်းနိုင်သည်။

(ဏ) လွှဲပြောင်းပေးပြီးသည့်ဝန်ထမ်းများ၏ ခွင့်ခံစားချက်နှင့်ပတ်သက်၍ နိုင်ငံ့ဝန်ထမ်းဥပဒေ အခန်း(၆)၊ အပိုဒ် (၁၄) ပါ ခွင့်အမျိုးအစားများကို သတ်မှတ်စည်းကမ်းချက်များနှင့်အညီ **"အငှားချထားခြင်းခံရသူ"**မှ ခွင့်ပြုပေးရမည်ဖြစ်ပြီး **"ခွင့်နှင့်စပ်လျဉ်းသည့် ကိစ္စရပ်များ"**ကို နိုင်ငံ့ဝန်ထမ်းဥပဒေ အပိုဒ်(၁၅) မှ (၂၂) ပါအတိုင်း **"အငှားချထားခြင်းခံရသူ"**မှ တာဝန်ယူစီမံခန့်ခွဲကြီးကြပ်ရမည်။

(တ) ဝန်ထမ်းဆိုင်ရာအကျိုးခံစားခွင့်၊ ငွေကြေး၊ အခွင့်အရေးဆိုင်ရာများတွင် လွှဲပြောင်းပေးသည့် ဝန်ထမ်းများမှ တောင်းဆိုတင်ပြလာမှုများရှိပါက **"အငှားချထားသူ"** နှင့် **"အငှားချထားခြင်းခံရသူ"**တို့က ညှိနှိုင်း၍ဖြေရှင်းဆောင်ရွက်ပေးရမည်။

(ထ) စက်ရုံရှိလွှဲပြောင်းပေးမည့်ဝန်ထမ်းများသည် **"ပြင်ပဝန်ထမ်းစည်းကမ်းချက်များ" နှင့်အညီ လိုက်နာသွားရမည်။** အထက်ပါအချက်များပါဝင်သည့် ပြင်ပဝန်ထမ်း စည်းကမ်းချက်များကို ပြည်ထောင်စုရာထူးဝန်အဖွဲ့နှင့်ညှိနှိုင်း၍ လုပ်ငန်းမှ ထုတ်ပြန်ပေးရမည်။ အဆိုပါ စည်းကမ်းချက်များကို **"အငှားချထားခြင်းခံရသူ"**နှင့် **"လွှဲပြောင်းပေးမည့် ဝန်ထမ်းများ"** မှ လိုက်နာသွားရမည်။




(ဒ) ဝန်ထမ်းအိမ်ရာတွင် လက်ရှိနေထိုင်လုပ်ကိုင်လျက်ရှိသော ဝန်ထမ်းများအား မိမိတို့စက်ရုံတွင် တာဝန်ထမ်းဆောင်စဉ်ကာလအတွင်း ဆက်လက်နေထိုင်ခွင့်ပြုရမည်။

၉။ လွှဲပြောင်းပေးမည့်ဝန်ထမ်းများနှင့်ပတ်သက်၍ **"အငှားချထားသူ"** က အောက်ပါစည်းကမ်းချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရမည် -

(က) ဝန်ထမ်းများ ပြောင်းရွှေ့တာဝန်ထမ်းဆောင်ခြင်း ဆိုင်ရာကိစ္စရပ်များအား **"အငှားချထားသူ"** ၏ စီမံမှုဖြင့်သာ ဆောင်ရွက်ရမည်။

(ခ) ဝန်ထမ်းများ ရာထူးအနှယ်(Lien) ဆက်လက်ထိန်းသိမ်းထားပြီး ရာထူးတိုးမြှင့်ရန် အချိန်ကျ ရောက်သည့်အခါ ရာထူးတိုးမြှင့်ခြင်းကိစ္စရပ်များကို **"အငှားချထားသူ"** က ဆောင်ရွက်ရမည်။

(ဂ) **"အငှားချထားခြင်းခံရသူ"**ဆောင်ရွက်မည့်ကိစ္စရပ်များမှအပ ကျန်ဝန်ထမ်းရေးရာကိစ္စရပ်များနှင့်ပတ်သက်၍ အမှတ်(၂)အကြီးစားစက်မှုလုပ်ငန်း၊ ဦးဆောင်ညွှန်ကြားရေးမှူး၊ ဥက္ကဋ္ဌအဖြစ် ဆောင်ရွက်သည့် စီမံခန့်ခွဲရေးအဖွဲ့မှ တာဝန်ယူဆောင်ရွက်ရမည်။

(ဃ) ဝန်ထမ်းရေးရာကိစ္စများနှင့်ပတ်သက်၍ **"အငှားချထားခြင်းခံရသူ"**နှင့် ဝန်ထမ်းများအကြား အငြင်းပွားမှုဖြစ်လာပါက အမှတ်(၂)အကြီးစားစက်မှုလုပ်ငန်း၊ ဦးဆောင်ညွှန်ကြားရေးမှူး ဥက္ကဋ္ဌအဖြစ်ဆောင်ရွက်သည့် စီမံခန့်ခွဲရေးအဖွဲ့မှ တာဝန်ယူဆောင်ရွက်ရမည်။ စီမံခန့်ခွဲရေးအဖွဲ့အား အောက်ပါအတိုင်းဖွဲ့စည်းရမည်-

| | | |
|---|---|---|
| (၁) | ဦးဆောင်ညွှန်ကြားရေးမှူး<br>အမှတ်(၂)အကြီးစားစက်မှုလုပ်ငန်း | ဥက္ကဋ္ဌ |
| (၂) | မန်နေဂျင်းဒါရိုက်တာ<br>အောင်ထက်မြက်ကုမ္ပဏီလီမိတက် | အဖွဲ့ဝင်(၁) |




(၃) ညွှန်ကြားရေးမှူး စီမံရေးဌာန — အဖွဲ့ဝင်(၂)

(၄) ညွှန်ကြားရေးမှူး ထုတ်လုပ်ရေးဌာန — အဖွဲ့ဝင်(၃)

(၅) ညွှန်ကြားရေးမှူး ဘဏ္ဍာရေးဌာန — အဖွဲ့ဝင်(၄)

(၆) ညွှန်ကြားရေးမှူး ရောင်းချဖြန့်ဖြူးရေးဌာန — အဖွဲ့ဝင်(၅)

(၇) ညွှန်ကြားရေးမှူး အုပ်ချုပ်ရေးဌာန — အတွင်းရေးမှူး

၁၀။ ပြင်ပဝန်ထမ်းစည်းကမ်းချက်ဖြင့် လွှဲပြောင်းပေးမည့်ဝန်ထမ်းများနှင့်ပတ်သက်၍ အောက်ပါအချက်များအား **"အငှားချထားခြင်းခံရသူ"** နှင့် **"အငှားချထားသူ"** တို့မှ နှစ်ဦးနှစ်ဖက်ညှိနှိုင်းဆောင်ရွက်ရမည်-

(က) ဝန်ထမ်းများရာထူးတိုးခြင်း၊ အရေးယူအပြစ်ပေးခြင်းနှင့် ဝန်ထမ်းရေးရာကိစ္စရပ်များအား နိုင်ငံတော်မှသတ်မှတ်ထားသည့် ပြင်ပဝန်ထမ်းစည်းမျဉ်းများနှင့်အညီ နှစ်ဦးနှစ်ဖက် ညှိနှိုင်းဆောင်ရွက်ရမည်။

(ခ) ဝန်ထမ်းရေးရာကိစ္စရပ်များနှင့်ပတ်သက်၍ ဝန်ထမ်းများ နစ်နာမှုမရှိစေရေးအတွက် နှစ်ဦးနှစ်ဖက် ညှိနှိုင်းဆောင်ရွက်ရမည်။

(ဂ) လုပ်ငန်းတွင် ထိခိုက်နစ်နာမှုမရှိစေရန်အတွက် ဝန်ထမ်းများအား ဤစက်ရုံ၏ ပြင်ပလုပ်ငန်း နေရာများသို့ ပြောင်းရွှေ့ခြင်းကို **"အငှားချထားခြင်းခံရသူ"**၏ သဘောတူညီမှုဖြင့် ဆောင်ရွက်ရမည်။

**ငှားရမ်းခနှုန်းထား**

၁၁။ ငှားရမ်းခနှုန်းထားမှာ အပိုဒ်(၃)ပါ စက်ရုံ၊ မြေ၊ အဆောက်အအုံ၊ စက်ပစ္စည်းကိရိယာများ၊ အခြားပစ္စည်းများ၊ မော်တော်ယာဉ်ယန္တရားများအပါအဝင် တစ်နှစ်လျှင် ကျပ်သန်း **၃၈၀**(ကျပ်သန်း သုံးရာ့ရှစ်ဆယ်တိတိ)ဖြစ်ပါသည်။

၁၂။ ငှားရမ်းခနှုန်းထားအား **(နှစ်)နှစ်တစ်ကြိမ်** ပြန်လည်သုံးသပ်ပြီး လိုအပ်ပါက နှစ်ဦးသဘောတူ ညှိနှိုင်းပြင်ဆင်ခြင်းကို စက်မှုဝန်ကြီးဌာန၊ ပစ္စည်းဝယ်ယူရောင်းချရေးနှင့်ဘဏ္ဍာရေးဆိုင်ရာကော်မတီ အစည်းအဝေးသို့ တင်ပြအတည်ပြုချက်ရယူ၍ ပြင်ဆင်သတ်မှတ်နိုင်ပြီး ထိုပြင်ဆင်သတ်မှတ်သော ငှားရမ်းခနှုန်းထားသည် မူလ ငှားရမ်းခနှုန်းထား၏ ၅ ရာခိုင်နှုန်းထက် မပိုသောပမာဏဖြစ်ရမည်။

၁၃။ ငှားရမ်းထားသည့် စက်ရုံမြေဧရိယာအတွင်းရှိ မြေလွတ်များတွင် Commercial Building များ ထပ်မံဆောက်လုပ်ဆောင်ရွက်မည်ဆိုပါက ငှားရမ်းခတိုးမြှင့်တောင်းခံသွားမည်။

**ငှားရမ်းခပေးချေခြင်း**

၁၄။ **"အငှားချထားခြင်းခံရသူ"**သည် တစ်နှစ်အတွက် ငှားရမ်းခ ကျပ်သန်း **၃၈၀** ကို သုံးလလျှင် တစ်ကြိမ် ကျပ် ၉၅ သန်း(ကျပ်ကိုးဆယ့်ငါးသန်းတိတိ) ပေးချေရမည်ဖြစ်ပြီး ငှားရမ်းခပေးချေရာတွင် ပေးသွင်းရမည့် ကာလအား **"စာချုပ်ချုပ်ဆို၍ ဆိုင်းငံ့ကာလ ၄ လပြည့်သည့်နေ့"** မှစ၍ ပထမသုံးလကာလ၊ ပထမလ၏ ပထမရက်သတ္တပတ်အတွင်း ပေးသွင်းရမည်။ ငှားရမ်းခပေးချေရမည့် ဒုတိယ၊ တတိယ၊ စတုတ္ထ ၃ လကာလများတွင်လည်း ပထမလ၏ ပထမရက်သတ္တပတ်အတွင်း ပေးချေရမည်ဖြစ် ပါသည်။ သတ်မှတ်ရက်အတွင်း ပေးသွင်းခြင်းမရှိပါက နောက်ကျကြေးအဖြစ် တစ်ပတ်နောက်ကျတိုင်း သုံးလတစ်ကြိမ် ငှားရမ်းခ ကျပ် ၉၅ သန်း၏ ၁ ရာခိုင်နှုန်း အား **"အငှားချထားသူ"** ထံသို့ ပေးသွင်းရမည်။ နောက်ကျကြေးကို တစ်ပတ်မပြည့်ဘဲ ရက်စွန်းလျှင်လည်း သုံးလတစ်ကြိမ် ငှားရမ်းခ ကျပ် ၉၅ သန်း တိတိ၏ ၁ ရာခိုင်နှုန်း အား **"အငှားချထားသူ"**ထံသို့ ပေးသွင်းရမည်။

**"အငှားချထားခြင်းခံရသူ"၏ တာဝန်ဝတ္တရားများ**

၁၅။ **"အငှားချထားခြင်းခံရသူ"**သည် အောက်ပါတို့ကို တာဝန်ယူဆောင်ရွက်ရမည် -

(က) ငှားရမ်းသည့် မြေ၊ အဆောက်အအုံ၊ စက်ပစ္စည်းကိရိယာများ၊ အခြားပစ္စည်းများ၊ မော်တော် ယာဉ်ယန္တရားများကို(နောက်ဆက်တွဲ 'က' မှ 'င' အထိ)ပါအတိုင်း ငှားရမ်း ဆောင်ရွက်ရမည်။

(ခ) **"အငှားချထားခြင်းခံရသူ"သည်** လုပ်ငန်းအာမခံကြေးငွေအဖြစ် တစ်နှစ်ငှားရမ်းခ၏ ၁၀ ရာခိုင်နှုန်းဖြစ်သော ကျပ် **၃၈** သန်း (ကျပ် သုံးဆယ့်ရှစ်သန်းတိတိ)ကို စာချုပ်ချုပ်ဆိုပြီး တစ်ပတ်အတွင်း အမှတ်(၂)အကြီးစား စက်မှုလုပ်ငန်းသို့ ပေးသွင်းရမည်။

(ဂ) **"အငှားချထားခြင်းခံရသူ"သည်** တာယာနှင့်ရော်ဘာပစ္စည်းများကို ကိုယ်ပိုင်အမှတ်တံဆိပ်ဖြင့် ထုတ်လုပ်လိုက ထုတ်လုပ်ခွင့်ရှိသော်လည်း အဆိုပါ ကုန်အမှတ်တံဆိပ်နှင့် စပ်လျဉ်း၍ မူပိုင်အခွင့်အရေးများ ချိုးဖောက်ကြောင်း တရားစွဲဆိုခံရလျှင် **"အငှားချထားခြင်းခံရသူ"** ၏ တာဝန်သာဖြစ်သည်။

(ဃ) ဤစာချုပ်တွင်ဖော်ပြထားသည့် ငှားရမ်းပေးချေရမည့် ကာလများတွင် သတ်မှတ်ရက်စွဲမတိုင်မီ ငှားရမ်းခများ ပေးဆောင်ရမည်။

(င) **စာချုပ်ချုပ်ဆိုပြီး ဆိုင်းငံ့ကာလ ၄ လပြည့်သည့်နေ့မှစ၍** တာယာထုတ်လုပ်မှုလုပ်ငန်းများ ဆောင်ရွက်ရမည်ဖြစ်ပြီး နှစ်စဉ်တာယာ ထုတ်လုပ်မှုကို **ရေဒီယယ်တာယာလုံးရေ ၁၃၀,၀၀၀ လုံးနှင့်အထက် ထုတ်လုပ်ရမည်။**

(စ) ငှားရမ်းခွင့်ရရှိထားသော အမှတ်(၂၂)အကြီးစားစက်ရုံ(ဘီးလင်း)၏ စက်ရုံမြေနှင့်အဆောက်အအုံတွင် ဆောင်ရွက်ရန် ရည်ရွယ်ထားသော လုပ်ငန်းများအပြင် အဆိုပြုတင်ပြချက်တွင် ဥပဒေနှင့် မငြိစွန်းသည့် တာယာနှင့်ရော်ဘာပစ္စည်း ထုတ်လုပ်မှုလုပ်ငန်းများကို တိုးချဲ့လုပ်ကိုင် ဆောင်ရွက်ခွင့်ရှိသည်။ သို့ရာတွင် **"အငှားချထားခြင်းခံရသူ"**မှ အဆိုပြုလုပ်ငန်း နှင့်မသက်ဆိုင်ဘဲ အခြားလုပ်ငန်းများအား လုပ်ကိုင်ဆောင်ရွက်လိုပါ က စက်မှုဝန်ကြီးဌာန၊ ပစ္စည်းဝယ်ယူရောင်းချရေးနှင့်ဘဏ္ဍာရေးဆိုင်ရာကော်မတီအစည်းအဝေး၏ ခွင့်ပြုချက်ရရှိပြီးမှသာ ဆောင်ရွက်ရမည်။

(ဆ) ငှားရမ်းခွင့်ရရှိထားသော စက်ရုံနှင့်ပစ္စည်းများအား တစ်ဆင့်ငှားရမ်းခြင်း၊ ပေါင်နှံခြင်း၊ ရောင်းချခြင်း(သို့မဟုတ်)တစ်နည်းနည်းဖြင့် လွှဲပြောင်းပေးခြင်း၊ အသုံးပြုခွင့်ပေးခြင်းတို့ကို မပြုလုပ်ရ။ သို့သော် မိမိကုမ္ပဏီတစ်ဦးတည်းဖြင့် ဆောင်ရွက်ရန် ငွေကြေးမလုံလောက်ပါ က မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုချက်ဖြင့် ပြည်တွင်း/ပြည်ပကုမ္ပဏီများနှင့် အတတ်ပညာအရင်းအနှီးများ ပူးပေါင်း၍ အကျိုးတူ

ဆောင်ရွက်ခွင့်ရှိသည်။ သို့သော် စက်ရုံနှင့်ပတ်သက်၍ မူလစာချုပ်ပါ **"အငှားချထားသူ"** နှင့် **"အငှားချထားခြင်းခံရသူ"** တို့၏ တာဝန်များနှင့်အညီ စာချုပ်ပါ စည်းကမ်းချက်များအတိုင်း **"အငှားချထားခြင်းခံရသူ"** ၌ တာဝန်ရှိစေရမည်။

(ဓ) အမှတ်(၂၂)အကြီးစားစက်ရုံ(ဘီးလင်း)၏ စက်ရုံမြေ၊ အဆောက်အအုံနှင့် စက်ပစ္စည်းကိရိယာများကို လိုအပ်သည့် မွမ်းမံပြင်ဆင်မှုများ ဆောင်ရွက်ရမည်။

(ဈ) တိုးချဲ့လုပ်ကိုင်မည့် ကုန်ထုတ်လုပ်ငန်းများနှင့် ဝန်ဆောင်မှုလုပ်ငန်းများအတွက် လိုအပ်သည့် စက်ပစ္စည်းအသစ်များတပ်ဆင်ခြင်း၊ အဆောက်အအုံအသစ်ဆောက်လုပ်ခြင်းတို့ကို **"အငှားချထားသူ"**၏ သဘောတူညီချက်ရယူပြီးမှသာ ဆောင်ရွက်ခွင့်ရှိသည်။

(ည) အငှားချထားသည့် စက်ရုံ၏ အခြေအနေများကို စစ်ဆေးရန်လိုအပ်ပါက **"အငှားချထားသူ"**က ကြိုတင်အကြောင်းကြားစာပေးပို့၍ နည်းလမ်းတကျ လုပ်ပိုင်ခွင့်ပေးအပ်သော ကိုယ်စားလှယ်များကို ဝင်ရောက်ခွင့်ပြုရမည်။ သို့ရာတွင် ၎င်းစစ်ဆေးခြင်းအတွက် ကုန်ထုတ်လုပ်ငန်းရပ်ဆိုင်းခြင်း၊ ထိခိုက်ခြင်း မဖြစ်စေရ။

(ဋ) အငှားချထားသည့်စက်ရုံတွင် အသုံးပြုသော သဘာဝဓာတ်ငွေ့၊ လျှပ်စစ်၊ ရေ၊ တယ်လီဖုန်းနှင့် ဆက်သွယ်ရေးဆိုင်ရာ အသုံးပြုကြေးနှင့် အခွန်အခများကို စာချုပ်ချုပ်ဆိုသည့်နေ့မှစ၍ သက်ဆိုင်ရာ ဝန်ကြီးဌာန၏ သတ်မှတ်နှုန်းထားအတိုင်း သတ်မှတ်ရက်အတွင်း အချိန်မီပေးဆောင်ရမည်။ ပေးဆောင်ထားသည့် ပြေစာအထောက် အထားမိတ္တူများကို **"အငှားချထားသူ"** ထံ လစဉ်ပေးပို့ရမည်။

(ဌ) လျှပ်စစ်ဓာတ်အားသုံးစွဲမှုကို တည်ဆဲဥပဒေစည်းမျဉ်းများနှင့်အညီ သုံးစွဲပြီး မီးဘေးကာကွယ်ရေးအစီအမံများ လုံလောက်စွာထားရှိရမည်။စက်ရုံ၏ သန့်ရှင်းရေး၊ အထွေထွေလုံခြုံရေးတို့ကိုလည်း တာဝန်ယူဆောင်ရွက်ရမည်။

(ဍ) **"အငှားချထားသူ"**၏ ခွင့်ပြုချက်ဖြင့် လျှပ်စစ်သွယ်တန်းခြင်း၊ အဝီစိတွင်းတူးခြင်း၊ ရေပိုက်သွယ်တန်းခြင်း၊ တယ်လီဖုန်းဆက်သွယ်တပ်ဆင်ခြင်းကို မိမိစရိတ်ဖြင့် ဆောင်ရွက် နိုင်သည်။ စာချုပ်သက်တမ်းကုန်ဆုံးပါက(သို့မဟုတ်) အငှားစာချုပ်ရပ်စဲခြင်းဖြစ်ပါက အဆိုပါပစ္စည်းများကို ပြန်လည်ဖြုတ်ယူခြင်း၊ ဖြတ်တောက်ခြင်းများကို **"အငှားချထားသူ"**၏ ခွင့်ပြုချက်ရရှိမှသာ ဆောင်ရွက်ခွင့်ရှိသည်။

(ဎ) အငှားချထားသည့်စက်ရုံတွင် တပ်ဆင်မှုများ၊ ပုံစံပြောင်းလဲမှုများ၊ စက်ပစ္စည်းအသစ်ဖြည့်စွက်တပ်ဆင်မှုများနှင့် တိုးချဲ့ဆောက်လုပ်မှုများအား လိုအပ်သလို ဆောင်ရွက်သွားနိုင်ပြီး ငှားရမ်းစာချုပ်သက်တမ်းကုန်ဆုံး၍ ပြန်လည်လွှဲပြောင်းပေးချိန်တွင်

မရွှေ့ပြောင်းနိုင်သော ပစ္စည်းများအားလုံး အခကြေးငွေပေးရန်မလိုဘဲ **"အငှားချထား သူ"** ပိုင်ပစ္စည်းများ အလိုအလျောက်ဖြစ် လာရမည်။

(ဏ) အငှားချထားသည့် စက်ရုံအတွက် အလုံးစုံအာမခံကို မြန်မာ့အာမခံဥပဒေပါ ပြဋ္ဌာန်းချက်များနှင့်အညီ ထားရှိရမည်ဖြစ်သည်။ အာမခံသက်တမ်း ကျော်လွန်မှုမရှိစေရေး တာဝန်ယူဆောင်ရွက်ရမည်။

(တ) အငှားချထားသည့်ပစ္စည်းများနှင့် စပ်လျဉ်း၍ မြေခွန်မှအပ စည်ပင်သာယာခွန်၊ အခြားအခွန်အခများ၊ ကုန်ထုတ်လုပ်မှုနှင့် သက်ဆိုင်သည့် အခွန်အခအမျိုးမျိုးတို့ကို ကျခံပေးဆောင်ရမည်။

(ထ) စာချုပ်သက်တမ်း တိုးမြှင့်ခြင်းမပြုလုပ်ပါက ဤစာချုပ်သက်တမ်း ကုန်ဆုံးသည့် နေ့မှ တစ်လအတွင်း **"အငှားချထားသူ"**သို့ အငှားချထားသည့် ပစ္စည်းများအားလုံးကို စတင်ငှားရမ်းခဲ့စဉ်က အခြေအနေအတိုင်း ပြုပြင်မွမ်းမံပြီး အဖိုးစားနားမပါရှိဘဲ **"အငှားချထားသူ"**၏ လက်ဝယ်အရောက် ပြန်လည်အပ်နှံရမည်။ သို့ရာတွင် အကျိုးအကြောင်းဆီလျော်မှုရှိသော ပွန်းပဲ့ခြင်းများအတွက် ပြောင်းလဲမှုများကို ခွင့်ပြုလက်ခံနိုင်သည်။

(ဒ) အမှတ်(၂၂)အကြိုးစားစက်ရုံ(ဘီးလင်း)အား Long Term Leasing စနစ်ဖြင့် ငှားရမ်း၍ **"အငှားချထားသူ"**မှ **"အငှားချထားခြင်းခံရသူ"**သို့ စက်ရုံလွှဲပြောင်းချိန်တွင် စာချုပ်ဝင် နှစ်ဦးနှစ်ဖက်စစ်ဆေးပြီး စက်ရုံ၌ အမှန်တကယ်ကျန်ရှိသည့် **ကုန်ကြမ်း၊ ကုန်ချောပစ္စည်း** များအား နှစ်ဖက်ညှိနှိုင်းတန်ဖိုးဖြင့် လွှဲပြောင်း၍ဝယ်ယူရန် သဘောတူညီမည်ဖြစ်ပြီး အရောင်းအဝယ် စာချုပ် သီးခြားချုပ်ဆိုဆောင်ရွက်မည်ဖြစ်သည်။

(ဓ) ထုတ်လုပ်ထားသော ကုန်ချောပစ္စည်းများကို ပြင်ပဈေးကွက်တွင် မိမိကြိုက်နှစ်သက်သည့် ဈေးနှုန်းဖြင့် လွတ်လပ်စွာရောင်းချခွင့်၊ သိုလှောင်ခွင့်၊ သယ်ယူခွင့်ရှိသည်။

(န) **"အငှားချထားခြင်းခံရသူ"**မှ ဆောင်ရွက်မည့်လုပ်ငန်းအတွက် သက်ဆိုင်ရာဌာနဆိုင်ရာများ၏ လုပ်ငန်းဆောင်ရွက်ခွင့်ပြုမိန့်အထောက်အထားများထားရှိပြီး **"အငှားချထားသူ"**ထံ မိတ္တူတစ်စုံ အပ်နှံထားရမည်။

(ပ) အငှားချထားသည့် စက်ရုံ၏ အုပ်ချုပ်မှုနှင့် ကုန်ထုတ်လုပ်မှုအတွက် လိုအပ်သည့် ဒီဇယ်ဆီ၊ ဓာတ်ဆီနှင့်စက်ဆီ၊ချောဆီတို့အား **"အငှားချထားခြင်းခံရသူ"**၏ အစီအမံဖြင့် စီစဉ်ဆောင်ရွက်ရမည်။

(ဖ) စက်ရုံရှိမော်တော်ယာဉ်များ၊ ယန္တရားများနှင့်ပတ်သက်၍ စက်သုံးဆီနှင့် ပြုပြင်ထိန်းသိမ်းမှုများကို **"အငှားချထားခြင်းခံရသူ"**မှ တာဝန်ယူဆောင်ရွက်ပေးရမည်။

**"အငှားချထားသူ"၏ တာဝန်ဝတ္တရားများ**

၁၆။ **"အငှားချထားသူ"**၏ တာဝန်ဝတ္တရားများမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

(က) **"အငှားချထားသူ"**သည် အငှားချထားသော မြေ၊ အဆောက်အအုံများ၊ စက်ပစ္စည်းများ၊ အခြားပစ္စည်းများ၊ မော်တော်ယာဉ်ယန္တရားများကို **"အငှားချထားခြင်းခံရသူ "** အား ဤစာချုပ်သက်တမ်းအတွင်း ငှားရမ်းရန် သဘောတူညီရမည်။

(ခ) **"အငှားချထားခြင်းခံရသူ"**သို့ အငှားချထားသည့် အမှတ်(၂၂)အကြီးစားစက်ရုံ (ဘီးလင်း)ကို လွှဲပြောင်းပေးပြီး ကုန်ပစ္စည်းများ ထုတ်လုပ်ခွင့်ပေးရမည်။

(ဂ) စက်ရုံနှင့်ပတ်သက်သည့် ဌာနအလိုက် သတ်မှတ်ထားသည့် လုပ်ကိုင်မှုနည်းစနစ်များ၊ စာရွက်စာတမ်းများ၊ စာရင်းဇယားများအား လိုအပ်သည်များ ဆောင်ရွက်နိုင်ရန် **"အငှားချထားခြင်း ခံရသူ"**အား စနစ်တကျ လွှဲပြောင်းပေးအပ်ရမည်။

(ဃ) စက်ရုံတွင် တပ်ဆင်ထားပြီးသော လျှပ်စစ်၊ရေ၊ တယ်လီဖုန်းတို့ကို **"အငှားချထားခြင်းခံရသူ"** အား ဆက်လက်အသုံးချခွင့်ပြုရမည်။

(င) အငှားချထားသည့် စက်ရုံအခြေအနေများကို ကြိုတင်အကြောင်းကြားစာပေးပို့၍ နည်းလမ်းတကျ လုပ်ပိုင်ခွင့်ပေးအပ်သော **"အငှားချထားသူ"**၏ ကိုယ်စားလှယ်များ စေလွှတ်ပြီး စစ်ဆေးနိုင်ခွင့်ရှိသည်။ သို့ရာတွင်၎င်းစစ်ဆေးခြင်းအတွက် စက်ရုံ၏ ကုန်ထုတ်လုပ်မှုလုပ်ငန်း ရပ်ဆိုင်းခြင်း၊ ထိခိုက်ခြင်းမဖြစ်စေရ။

(စ) အငှားချထားသည့် စက်ရုံအတွက် ကျသင့်သည့် မြေခွန်ကို ပေးဆောင်ရမည်။

(ဆ) စက်ရုံတွင် အသုံးပြုသော သဘာဝဓာတ်ငွေ့၊ ရေနွေးငွေ့၊ လျှပ်စစ်၊ရေ၊ တယ်လီဖုန်းနှင့် ဆက်သွယ်ရေးဆိုင်ရာအသုံးပြုခြင်းနှင့် အခွန်အခများအား **"အငှားချထားခြင်းခံရသူ"** မှ လစဉ်အချိန်မီ ပေးဆောင်မှု ရှိ/မရှိ စစ်ဆေးရမည်။

(ဇ) စာချုပ်အပိုဒ်(၇)ပါ **"အငှားချထားခြင်းခံရသူ"**မှ ရင်းနှီးမြှုပ်နှံရန် ရည်မှန်းချက်များအား သတ်မှတ်ကာလအတွင်း အမှန်တကယ် အကောင်အထည်ဖော်နိုင်မှု ရှိ/မရှိ စိစစ်ဆောင်ရွက်ရမည်။အမှန်တကယ်ဆောင်ရွက်ခြင်းမရှိပါက **"အငှားချထားသူ"**မှ ဆက်လက်ဆောင်ရွက်ရန် သင့်/မသင့် **"အငှားချထားခြင်းခံရသူ"**နှင့် ပြန်လည်ညှိနှိုင်း ဆောင်ရွက်သွားမည်။

**ကုန်အမှတ်တံဆိပ်အသုံးပြုခြင်း**

၁၇။ **"အငှားချထားခြင်းခံရသူ"**သည် တာယာနှင့်ရော်ဘာပစ္စည်းများကို ကိုယ်ပိုင်ကုန်အမှတ်တံဆိပ်ဖြင့် ထုတ်လုပ်လိုက ထုတ်လုပ်ခွင့်ရှိသည်။ သို့ရာတွင် အဆိုပါကုန်အမှတ်တံဆိပ်နှင့် စပ်လျဉ်း၍ မူပိုင်အခွင့်အရေးများကို ချိုးဖောက်ကြောင်း တရားစွဲဆိုခံရလျှင် **"အငှားချထားခြင်းခံရသူ"**၏ တာဝန်သာဖြစ်သည်။

၁၈။ **"အငှားချထားခြင်းခံရသူ"**သည် ကိုယ်ပိုင်ကုန်အမှတ်တံဆိပ်အား အသုံးပြုလိုပါက **"အငှားချထားသူ"**၏ သဘောတူညီချက်ဖြင့်သာ ဆောင်ရွက်ရမည်။

**ဓာတ်သတ္တုအရင်းအမြစ်များ**

၁၉။ စာချုပ်ပါစည်းကမ်းချက်များအတိုင်း လုပ်ကိုင်ဆောင်ရွက်နေစဉ်အတွင်း အငှားချထားသော မြေ၏ မြေပေါ်၊မြေအောက်မှ မမျှော်လင့်ဘဲ ဓာတ်သတ္တုအရင်းအမြစ်များ၊ ရေနံဓာတုဆိုင်ရာပစ္စည်းများ၊ သဘာဝသယံ ဇာတပစ္စည်းများ၊ ရှေးဟောင်းပစ္စည်းများ၊ ကျောက်မျက်ရတနာများ အစရှိသည်တို့ကိုတွေ့ရှိပါက **"အငှားချထားသူ"**ထံချက်ချင်းအကြောင်းကြားရမည်။ အဆိုပါ ပစ္စည်းများသည် **"အငှားချထားခြင်းခံရသူ"**နှင့် သက်ဆိုင်ခြင်းမပြုစေရ။ **"အငှားချထားသူ"**သည် အဆိုပါ ပစ္စည်းများကို **"အငှားချထားခြင်းခံရသူ"**၏ လုပ်ငန်းများ နစ်နာဆုံးရှုံးမှုမရှိစေဘဲ လွတ်လပ်စွာတူးဖော်ရယူခွင့်ရှိစေသည့်အပြင် နိုင်ငံတော်အစိုးရသို့ လွှဲပြောင်းတင်ပြခွင့်ရှိစေရမည်။

**ပတ်ဝန်းကျင်ထိန်းသိမ်းကာကွယ်ခြင်း**

၂၀။ **"အငှားချထားခြင်းခံရသူ"**အနေဖြင့် လုပ်ငန်းလုပ်ဆောင်မည့် နေရာဒေသ၏ ပတ်ဝန်းကျင် နေရာဒေသများအား ကောင်းစွာကာကွယ်ထိန်းသိမ်းစောင့်ရှောက်ထားရန် တာဝန်ရှိသည်။ ထို့အပြင် လေထု၊ရေထုနှင့်၊ မြေထုများ ညစ်ညမ်းခြင်းနှင့် အခြားသော ပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်ပျက်စီးဆုံးရှုံးခြင်းအား ကာကွယ်ထိန်းချုပ်ခြင်းလုပ်ငန်းများကို ဆောင်ရွက်ရမည်။ ရေများသန့်စင်နိုင်သော စက်များတပ်ဆင်ပေးခြင်း၊ လေထုညစ်ညမ်းမှု မဖြစ်ပေါ်စေရန် အခိုးအငွေ့နှင့် အညစ်အကြေးစွန့်အစိတ်အပိုင်းများကို လုံခြုံစွာထားရှိပေးခြင်းဖြင့် အခြားသော ပတ်ဝန်းကျင်ဘေးအန္တရာယ်ကင်းရှင်းရေးဆိုင်ရာ လိုအပ်သော အကာအကွယ်အစီအစဉ်များဆောင်ရွက်ရမည်။ သို့ရာတွင် **"အငှားချထားသူ"** လက်ထက်က ဆောင်ရွက်ခဲ့သည့် လုပ်ငန်းစဉ်များအတိုင်း လုပ်ကိုင်ခွင့်ရှိစေရမည်။

**အကျိုးသက်ရောက်သည့်နေ့**

၂၁။ ဤစာချုပ်သည် **"အငှားချထားသူ"**နှင့် **"အငှားချထားခြင်းခံရသူ"**တို့ လက်မှတ်ရေးထိုးပြီး လုပ်ငန်းအာမခံကြေးငွေ ကျပ် **၃၈** သန်း ပေးသွင်းသည့်နေ့မှစ၍ အကျိုးသက်ရောက်မှုရှိစေရမည်။

**စာချုပ်ပြင်ဆင်ခြင်း**

၂၂။ ဤစာချုပ်ပါ စည်းကမ်းချက်များကို ပြင်ဆင်ခြင်း၊ ပြောင်းလဲခြင်းနှင့် ထပ်မံဖြည့်စွက်ခြင်း ပြုလုပ်လိုပါက စာချုပ်ဝင်နှစ်ဦးနှစ်ဖက်၏တရားဝင်စာဖြင့် သဘောတူညီချက်နှင့် စက်မှုဝန်ကြီးဌာန၊ ပစ္စည်းဝယ်ယူရောင်းချရေးနှင့် ဘဏ္ဍာရေးဆိုင်ရာကော်မတီအစည်းအဝေး အတည်ပြုချက်အရသာ ပြုလုပ်နိုင်သည်။

၂၃။ **"အငှားချထားခြင်းခံရသူ"**မှ စက်ရုံငှားရမ်းရာတွင် စီးပွားရေးအရ တွက်ခြေကိုက်မှုမရှိခြင်း၊ အခြား သော အဆင်မပြေမှုများရှိခြင်းကြောင့် စာချုပ်ပြင်ဆင်လိုပါက **"အငှားချထားသူ"**ထံ စာဖြင့် အကြောင်းကြားရမည်။ နှစ်ဦးနှစ်ဖက်ညှိနှိုင်းဆွေးနွေးမှုကို ၃ လ ထက်မပိုသောကာလအတွင်း ပြီးပြတ်အောင် ဆောင်ရွက်ရမည်။

**စာချုပ်ပြန်လည်ညှိနှိုင်းခြင်း**

၂၄။ စာချုပ်ပါစည်းကမ်းချက်များနှင့်အညီ အကောင်အထည်ဖော်ဆောင်ရွက်ရာတွင် လုပ်ငန်း လိုအပ်ချက်အရ (သို့မဟုတ်) ဤစာချုပ်တွင်မပါရှိသည့် ကိစ္စရပ်များပေါ်ပေါက်လာလျှင် စာချုပ်ဝင် နှစ်ဦးနှစ်ဖက်ညှိနှိုင်းခွင့်ရှိစေရမည်။

**စာချုပ်ရပ်စဲခြင်း**

၂၅။ (က) စာချုပ်ရပ်စဲခြင်းနှင့်စပ်လျဉ်း၍ ဤစာချုပ်ကို အောက်ပါအကြောင်းရပ် တစ်ခုခုပေါ်ပေါက် ပါ က စက်မှုဝန်ကြီးဌာန၊ ပစ္စည်းဝယ်ယူရောင်းချရေးနှင့် ဘဏ္ဍာရေးဆိုင်ရာကော်မတီ အစည်းအဝေးသို့ တင်ပြအတည်ပြုချက်ရယူ၍ ရပ်စဲခွင့်ရှိသည် -

(၁) မလွန်ဆန်နိုင်သော ဖြစ်ရပ်များကြောင့် အငှားချထားခြင်းခံရသည့် စက်ရုံရှိ ပစ္စည်းများ ပျက်စီးဆုံးရှုံးသွား၍ **"အငှားချထားခြင်းခံရသူ"**က လုပ်ငန်း ဆက်လက်ဆောင်ရွက်ရန် မဖြစ်နိုင်တော့ခြင်း။

(၂) စာချုပ်ဝင်တစ်ဖက်ဖက်မှ စာချုပ်ပါစည်းကမ်းချက်တစ်ရပ်ရပ်အား ဆောင်ရွက်ရန် ပျက်ကွက်ခြင်း။

(၃) စာချုပ်သက်တမ်းကုန်ဆုံးခြင်း။

(၄) **"အငှားချထားခြင်းခံရသူ"**က လူမွဲအဖြစ်ခံယူသွားခြင်း။

(၅) စာချုပ်ဝင်နှစ်ဖက်သဘောတူရပ်စဲခြင်း။

(ခ) စာချုပ်သက်တမ်းမကုန်ဆုံးမီ စာချုပ်အားရပ်စဲလိုပါက ရပ်စဲလိုကြောင်း စာချုပ်ဝင် တစ်ဖက်ဖက်မှ အခြားတစ်ဖက်ဖက်သို့ ၆ လ ကြိုတင်၍ နို့တစ်စာပေးပို့ရမည်။ စက်မှု ဝန်ကြီးဌာန၊ပစ္စည်းဝယ်ယူရောင်းချရေးနှင့်ဘဏ္ဍာရေးဆိုင်ရာကော်မတီအစည်းအဝေး သို့ တင်ပြအတည်ပြုချက်ရပြီးမှသာ တရားဝင်စာချုပ်ရပ်စဲခွင့်ရှိပြီး စာချုပ်ရပ်စဲခွင့် မရသေးမီကာလအထိ ပေးဆောင်ရန်ရှိသော ငှားရမ်းခ၊ အလုပ်သမားခ အပါအဝင် အခွန်အခများကို **"အငှားချထားခြင်းခံရသူ"**က ပေးဆောင်ရမည်။

**ပြန်လည်လွှဲပြောင်းပေးအပ်ခြင်း**

၂၆။ **"အငှားချထားခြင်းခံရသူ"**သည် ဤစာချုပ်ပါ ငှားရမ်းခြင်းကာလကုန်ဆုံးသည့် အခါဖြစ်စေ၊ စာချုပ်ရုပ်စဲသည့်အခါဖြစ်စေ၊ ယင်းသို့ကုန်ဆုံးသည့်နေ့ (သို့မဟုတ်) ရုပ်စဲသည့်နေ့မှ တစ်လအတွင်း အငှားချထားသည့် စက်ရုံ၊ မြေ၊ အဆောက်အအုံ၊ စက်ပစ္စည်းကိရိယာများကို **"အငှားချထားသူ"**သို့ အဖိုးစားနားမပါရှိဘဲ ကောင်းမွန်သောအနေအထားဖြင့် ပြန်လည်လွှဲပြောင်း ပေးအပ်ရမည်။ သို့ရာတွင် **"အငှားချထားခြင်း ခံရသူ"** မှ ကုန်ပစ္စည်းထုတ်လုပ်မှုအတွက် တပ်ဆင်အသုံးပြုသော စက်ပစ္စည်းများမှအပ **"အငှားချထားခြင်းခံရသူ"**ဝယ်ယူထားသည့် ကျန်ရှိသော ရွှေ့ပြောင်းနိုင်သည့် ပစ္စည်းများအားလုံးကို **"အငှားချထား ခြင်းခံရသူ"** မှ ပြန်လည်ရယူပိုင်ခွင့်ရှိသည်။

**မလွန်ဆန်နိုင်သည့် ဖြစ်ရပ်များ**

၂၇။ မလွန်ဆန်နိုင်သော ဖြစ်ရပ်များဆိုသည်မှာ သဘာဝအလျောက်ကြုံတွေ့နိုင်သည့် ရေဘေး၊ လေဘေး၊ မီးဘေး၊ မြေငလျင်ဘေး စသည်များအပြင် နိုင်ငံတော်အစိုးရ၏ကန့်သတ်တားမြစ်ချက်များ၊ တရားဥပဒေစိုးမိုးရေးနှင့် ငြိမ်ဝပ်ပိပြားမှုပျက်ပြယ်ခြင်း၊ စစ်ဖြစ်ခြင်းစသည်တို့နှင့် စာချုပ်ဝင်တစ်ဖက်ဖက်က လိုအပ်သော သတိ ဝီရိယနှင့် ဆောင်ရွက်စေကာမူမလွန်ဆန်၊ မကျော်လွှားနိုင်သည့်အလားတူဖြစ်ရပ်များဖြစ်ပြီး၊ ယင်းဖြစ်ရပ်များကြောင့် ငှားရမ်းသုံးစွဲမှုကို ထိခိုက်ဆုံးရှုံးစေလျှင် **"အငှားချထားခြင်းခံရသူ"** သည် **"အငှားချထားသူ"**သို့ နစ်နာဆုံးရှုံးမှုအတွက် လျော်ကြေးတောင်းခံခွင့်မရှိစေရ။

၂၈။ ထိုသို့ မလွန်ဆန်နိုင်သောဖြစ်ရပ်များ ပေါ်ပေါက်လာပါက ယင်းဖြစ်ရပ် ဖြစ်ပေါ်သည့်အချိန်မှ ၇ ရက် အတွင်း **"အငှားချထားခြင်းခံရသူ"**သည် **"အငှားချထားသူ"**သို့ ချက်ခြင်းစာဖြင့်ရေးသား အကြောင်းကြားရမည်။ **"အငှားချထားသူ"**က လက်ခံအတည်ပြုလျှင် မလွန်ဆန်နိုင်သောဖြစ်ရပ်ကြောင့် စက်ရုံ၊မြေ၊ အဆောက်အအုံနှင့် စက်ပစ္စည်းများ ငှားရမ်းအသုံးပြုခွင့်နှင့် တိုက်ရိုက်သက်ဆိုင်သော ဖြတ်တောက်ကာလ အပိုင်းအခြားအတွက် ငှားရမ်းခကို သက်သာခွင့်ပြုနိုင်သည်။

၂၉။ အငှားချထားသည့် ပစ္စည်းအားလုံးကို လျော်ကန်သင့်မြတ်သော သတိဝီရိယဖြင့် ကောင်းမွန်စွာ ထိန်းသိမ်းထားပြီး လိုအပ်သောပြင်ဆင်မွမ်းမံမှုအားလုံးကို ပြုလုပ်ရမည်။ အကယ်၍ အဆိုပါပစ္စည်းအားလုံးဖြစ်စေ၊ တစ်စိတ်တစ်ဒေသဖြစ်စေ မီးလောင်ခြင်း၊ မြေငလျင်လှုပ်ခြင်း၊ လေမုန်တိုင်း ကျရောက်ခြင်း၊ ရေကြီးခြင်း၊ ရန်းရင်းဆန်ခတ်မှုဖြစ်ပေါ်ခြင်း(သို့မဟုတ်) အခြားမလွန်ဆန်နိုင်သည့် အကြောင်းတရားများကြောင့် ပျက်စီးသွား၍ ဆက်လက်အသုံးပြုရန် သင့်လျော်သောကျန်ရှိနေသည့် အစိတ်အပိုင်းအတွက် ငှားရမ်းခကို အချိုးကျ လျော့ပေါ့ပေးရန် အမြန်ဆုံးအကြောင်းကြားရမည်။

ကန့်သတ်

HI(22)Contract 17

၃၀။ သို့ရာတွင် အငှားချထားသည့်ပစ္စည်းများ၏ ပျက်စီးဆုံးရှုံးခြင်းဖြစ်ပေါ်ရခြင်းမှာ **"အငှားချထားခြင်းခံရသူ"**၏ မှားယွင်းသောလုပ်ဆောင်ချက်၊ သင့်လျော်သလိုဆောင်ရွက်ရန် ပျက်ကွက်ခြင်း (သို့မဟုတ်)ပေါ့လျော့ခြင်းကြောင့် ဖြစ်ပွားပါက **"အငှားချထားခြင်းခံရသူ"**သည် ဤစာပိုဒ်ပါ အခွင့်အရေးကို ရယူခံစားနိုင်ခွင့်မရှိသည့်အပြင် ယင်းပစ္စည်းများအား နဂိုမူလအခြေအနေသို့ရောက်ရှိအောင် ပြန်လည်ပြင်ဆင်မွမ်းမံရသည့် ကုန်ကျစရိတ်အားလုံးကို ပေးချေရမည်။

**အငြင်းပွားမှုဖြေရှင်းခြင်း**

၃၁။ ဤစာချုပ်နှင့်စပ်လျဉ်း၍ အငြင်းပွားမှုတစ်စုံတစ်ရာ ပေါ်ပေါက်လာပါက ထိုအငြင်းပွားမှုကို ငြိမ်းချမ်းသောနည်းလမ်းဖြင့် နှစ်ဦးနှစ်ဖက်ဖြေရှင်းကြရမည်။ ထိုကဲ့သို့ ဖြေရှင်း၍ မရနိုင်ပါက ဥပဒေ နှင့်အညီ သက်ဆိုင်ရာ စီရင်ပိုင်ခွင့်ရှိသော တရားရုံး၏ အဆုံးအဖြတ်ကို ခံယူရမည်။

**Premium ကြေးပေးသွင်းခြင်း**

၃၂။ အမှတ်(၂၂)အကြီးစားစက်ရုံ(ဘီးလင်း)၏ မြေနှင့်အဆောက်အအုံများအား ငှားရမ်းခြင်းအတွက် မြေအသုံးချမှု ပရီမီယမ် (Land Use Premium)အဖြစ် **ကျပ် ၁၃ သိန်း** (ကျပ် တစ်ဆယ့်သုံးသန်းတိတိ)အား စာချုပ်လက်မှတ်ရေးထိုးသည့်နေ့မှစ၍ တစ်ပတ်အတွင်း ပေးသွင်းရမည်။ Premium ကြေး ပေးသွင်းပြီးမှ သာ ငှားရမ်းခြင်းစာချုပ်အတည်ဖြစ်မည်။

၃၃။ **"အငှားချထားခြင်းခံရသူ"**က Premium ကြေး ပေးသွင်းရန် နောက်ကျပါက ရက်သတ္တပတ်နောက်ကျတိုင်း ရက်လွန်ကြေးအဖြစ် ပေးသွင်းသော Premium ကြေး၏ ၀.၅ ရာခိုင်နှုန်းကို နောက်ကျဒဏ်ကြေးအဖြစ်ပေးသွင်းရမည်ဖြစ်သည်။ တစ်ပတ်မပြည့်ဘဲရက်စွန်းလျှင်လည်း အလားတူဒဏ်ကြေးပေးဆောင်ရမည်ဖြစ်သည်။

**လုပ်ငန်းအာမခံကြေးပေးသွင်းခြင်း**

၃၄။ **"အငှားချထားခြင်းခံရသူ"**သည် စာချုပ်လက်မှတ်ရေးထိုးသည့်နေ့မှစ၍ တစ်ပတ်အတွင်း လုပ်ငန်းအာမခံကြေးငွေအဖြစ် တစ်နှစ်ငှားရမ်းခ၏ ၁၀ ရာခိုင်နှုန်းဖြစ်သော ကျပ် **၃၈ သိန်း** (ကျပ် သုံးဆယ့်ရှစ်သန်းတိတိ)ကို အမှတ်(၂)အကြီးစား စက်မှုလုပ်ငန်း၊ ဘဏ္ဍာရေးဌာနသို့ ပေးသွင်းရမည်။ **လုပ်ငန်းအာမခံကြေးငွေ ပေးသွင်းပြီးမှသာ စာချုပ်အတည်ဖြစ်မည်။**

၃၅။ **"အငှားချထားခြင်းခံရသူ"**မှ စာချုပ်ပါ စည်းကမ်းချက် တစ်ရပ်ရပ်ကို ဖောက်ဖျက်ပါက လုပ်ငန်း အာမခံကြေးငွေကို **"အငှားချထားသူ"**မှ သိမ်းယူမည်ဖြစ်ပြီး ကုမ္ပဏီအား အမည်ပျက်စာရင်း (Black List )ပေးသွင်းသွားမည်ဖြစ်သည်။

**ပျက်ကွက်ခြင်း**

၃၆။ **"အငှားချထားသူ"**နှင့် **"အငှားချထားခြင်းခံရသူ"**သည် စာချုပ်ပါစည်းကမ်းချက် တစ်ရပ်ရပ်ကို ဆောင်ရွက်ရန် (သို့မဟုတ်)လိုက်နာရန် ပျက်ကွက်ခြင်းကြောင့် **"အငှားချထားခြင်းခံရသူ"** (သို့မဟုတ်) **"အငှားချထားသူ"**က ယင်းကဲ့သို့ပျက်ကွက်မှုများကို ပြုပြင်ရန် (သို့မဟုတ်) လိုက်နာရန် **"အငှားချထားခြင်းခံရသူ"** (သို့မဟုတ်) **"အငှားချထားသူ"**သို့ အကြောင်းကြားစာပေးပို့ပြီးနောက် အကြောင်းကြားစာပါ ကာလအတွင်း လိုက်နာမှုမရှိပါက ပျက်ကွက်မှုအဖြစ် သတ်မှတ်မည်ဖြစ်သည်။

**မြေသို့ ပြန်လည်ဝင်ရောက်ပိုင်ခွင့်**

၃၇။ **"အငှားချထားခြင်းခံရသူ"**သည် စာချုပ်ပါ စည်းကမ်းချက်တစ်ရပ်ရပ်ကို ဆောင်ရွက်ရန် (သို့မဟုတ်) လိုက်နာရန်ပျက်ကွက်ခြင်းကြောင့် **"အငှားချထားသူ"** က ယင်းကဲ့သို့ ပျက်ကွက်မှုများကို ပြုပြင်ရန်(သို့မဟုတ်)လိုက်နာရန် **"အငှားချထားခြင်းခံရသူ"**သို့ အကြောင်းကြားစာပေးပို့ပြီးနောက် အကြောင်းကြားစာပါ ကာလအတွင်းလိုက်နာမှုမရှိပါက **"အငှားချထားသူ"** သည် အငှားချထားသည့် မြေ၊စက်ရုံနှင့် အဆောက်အအုံ၊ စက်ကိရိယာများကို ပြန်လည်ဝင်ရောက်၍ လက်ဝယ်ရယူခွင့်ရှိသည်။ ထိုအခါ အငှားစာချုပ်သည် ရပ်စဲ၍ ဆုံးခန်းတိုင်ရောက်ရမည်။ သို့ရာတွင် ယင်းသို့ဝင်ရောက်၍ လက်ရောက်ရယူခြင်းသည် **"အငှားချထားသူ"** က **"အငှားချထားခြင်းခံရသူ"** ထံမှ ရရန်ရှိသော ငှားရမ်းခ(သို့မဟုတ်) ပျက်စီးဆုံးရှုံးမှုအတွက် လျော်ကြေးတောင်းဆိုခွင့်ကို ထိခိုက်ခြင်းမရှိစေရ။

အကြောင်းကြားစာ

၃၈။ နို့တစ်စာများ(သို့မဟုတ်)အခြားအချက်အလက် အကြောင်းကြားချက်များကို မြန်မာဘာသာဖြင့်ဖြစ်စေ၊ အင်္ဂလိပ်ဘာသာဖြင့်ဖြစ်စေရေးသားပြီး စာတိုက်မှတ်ပုံတင် ချောစာဖြင့် ဖြစ်စေ၊ အီးမေးလ်ဖြင့်ဖြစ်စေ၊ ဖက်(စ်)ဖြင့်ဖြစ်စေ၊ အပြည်ပြည်ဆိုင်ရာ ဆက်သွယ်ရေးနည်းစနစ်ဖြင့်ဖြစ်စေ သက်ဆိုင်ရာအဖွဲ့သို့ဆက်သွယ်ဆောင်ရွက်နိုင်သည့် ဆက်သွယ်ရန်လိပ်စာမှာ စာချုပ်တွင်ဖော်ပြပါရှိသော လိပ်စာအတိုင်းဖြစ်ပါသည် -

(က) အငှားချထားသူ

| | | |
|---|---|---|
| (၁) | အမည် | ဦးမြင့်နိုင်၊ ဦးဆောင်ညွှန်ကြားရေးမှူး |
| (၂) | လိပ်စာ | အမှတ်(၂)အကြီးစားစက်မှုလုပ်ငန်း စက်မှုဝန်ကြီးဌာန၊ ရုံးအမှတ်(၃၀)၊ နေပြည်တော် |
| (၃) | ဖုန်းအမှတ် | ၀၆၇-၄၀၅၁၆၁ |
| (၄) | ဖက်(စ်)အမှတ် | ၀၆၇-၄၀၅၀၅၈ |

(ခ) အငှားချထားခြင်းခံရသူ

| | | |
|---|---|---|
| (၁) | အမည် | ဦးမောင်မောင်ဌေး၊ မန်နေဂျင်းဒါရိုက်တာ |
| (၂) | လိပ်စာ | အမှတ်(၄၇)၊ဘုရင့်နောင်လမ်းမကြီး၊ လှိုင်မြို့နယ်၊ ရန်ကုန်မြို့ အောင်ထက်မြက်ကုမ္ပဏီလီမိတက် |
| (၃) | ဖုန်းအမှတ် | ၀၁ ၆၁၈၁၅၀၊ ၀၁ ၆၁၈၄၆၁၊ ၀၉ ၅၀၀၀၇၂၀ |
| (၄) | ဖက်(စ်)အမှတ် | ၀၁ ၂၅၀၂၈၀ |

(ဂ) ယခုကဲ့သို့ စာရွက်စာတမ်းများ ပေးပို့ဆက်သွယ်သည့်အခါများတွင် အခြားတစ်ဖက်မှ လက်ခံရရှိကြောင်းပြန်ကြားစာရရှိပြီးမှသာ ပေးပို့ခြင်းကိုအတည်ပြုနိုင်သည်။ အကယ်၍ လိပ်စာပြောင်းလဲခဲ့ပါက စာဖြင့်ရေးသားအကြောင်းကြားရမည်။






၃၉။ ဤစာချုပ်တွင်ပါရှိသော မြေပုံနှင့်နောက်ဆက်တွဲများသည် စာချုပ်၏ တစ်စိတ်တစ်ဒေသ ဖြစ်သည်။ အထက်ဖော်ပြပါစည်းကမ်းချက်များကို သဘောတူလက်ခံပါသဖြင့် တစ်ဖက်ပါအသိသက်သေ အစုံအလင်ရှေ့မှောက်တွင် ၂၀၁၄ ခုနှစ် နိုဝင်ဘာလ ၁ ရက်၌ **"အငှားချထားသူ"**နှင့် **"အငှားချထားခြင်းခံရသူ"**တို့ လက်မှတ်ရေးထိုးကြပါသည်-

**"အငှားချထားသူ"(ကိုယ်စား)** | **"အငှားချထားခြင်းခံရသူ"(ကိုယ်စား)**






ဦးမြင့်နိုင်
ဦးဆောင်ညွှန်ကြားရေးမှူး
အမှတ်(၂)အကြီးစားစက်မှုလုပ်ငန်း
စက်မှုဝန်ကြီးဌာန

ဦးမောင်မောင်ဌေး
Managing Director
၁၂/ကတတ(နိုင်)၀၀၆၀၃၁
အောင်ထက်မြက်ကုမ္ပဏီလီမိတက်
အမှတ်(၄၇)၊ဘုရင့်နောင်လမ်းမကြီး၊
ရန်ကုန်တိုင်းဒေသကြီး

# အသိသက်သေများ

၁။ ဦးဌေးဝင်းအောင်
ညွှန်ကြားရေးမှူး
စီမံရေးဌာန
အမှတ်(၂)အကြီးစားစက်မှုလုပ်ငန်း

၁။ ဒေါက်တာထင်ကျော်ဦး
၁၂/ရကန(နိုင်)၀၄၄၀၂၉
ဒါရိုက်တာ
အောင်ထက်မြက်ကုမ္ပဏီလီမိတက်

၂။ ဒေါ်မိမိဝင်းညီ
ညွှန်ကြားရေးမှူး
ဘဏ္ဍာရေးဌာန
အမှတ်(၂)အကြီးစားစက်မှုလုပ်ငန်း

၂။ ဦးဌေးဝင်း
၅/မရန(နိုင်)၀၆၁၄၇၄
မန်နေဂျာ
အောင်ထက်မြက်ကုမ္ပဏီလီမိတက်

လျှို့ဝှက်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

ပြည်ထောင်စုရှေ့နေချုပ်ရုံး

နေပြည်တော်

စာအမှတ်၊ ၂(၅) ၃ - ၃၅ /နပတ( ၂၁၆ )

ရက်စွဲ၊ ၂၀၁၅ ခုနှစ် ၊ မတ်လ ၆ ရက်

အကြောင်းအရာ။ အမှတ်(၂၂)အကြီးစားစက်ရုံ(ဘီးလင်း)၏ မြေနှင့်အဆောက်အအုံ၊ စက်ပစ္စည်းများအားငှားရမ်းသည့် သဘောတူစာချုပ်ကို ပြင်ဆင်ချုပ်ဆိုမည့် ပြင်ဆင်ချက်သဘောတူစာချုပ် (မူကြမ်း) အပေါ် သဘောထားမှတ်ချက်ပေးရန်ကိစ္စ

ရည် ညွှန်း ချက် ။ စက်မှုဝန်ကြီးဌာန၏ ၁၇-၂-၂၀၁၅ ရက်စွဲပါစာအမှတ်၊ ၂၃-စမ(၂) ၂၀၁၄-၂၀၁၅(၅၂၄၂)

၁။ စက်မှုဝန်ကြီးဌာန၊ အမှတ်(၂)အကြီးစားစက်မှုလုပ်ငန်းကြီးကြပ်မှုရှိ အမှတ်(၂၂) အကြီးစားစက်ရုံ(ဘီလင်း)၏ မြေနှင့်အဆောက်အအုံ၊ စက်ပစ္စည်းများအား အောင်ထက်မြတ်ကုမ္ပဏီ လီမိတက်သို့ငှားရမ်းခဲ့သည့် ငှားရမ်းခြင်းသဘောတူစာချုပ်ကိုပြင်ဆင်ချုပ်ဆိုမည့် စာချုပ်(မူကြမ်း) အပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် မေတ္တာရပ်ခံလာသော ကိစ္စ ဖြစ်ပါသည်။

၂။ ရည်ညွှန်းချက်ပါစာနှင့်အတူပြင်ဆင်ချက်သဘောတူစာချုပ်(မူကြမ်း)နှင့် ၁-၁၁-၂၀၁၄ ရက်စွဲပါ ငှားရမ်းရေးသဘောတူစာချုပ်၊ (မူလစာချုပ်)(မိတ္တူ)တို့အား ပေးပို့လာပါသည်။

၃။ ပေးပို့လာသောပြင်ဆင်ချက်သဘောတူစာချုပ်(မူကြမ်း)အားဥပဒေရှုထောင့်မှလေ့လာ စိစစ်ပြီး အောက်ပါအတိုင်း သုံးသပ်အကြံပြုအပ်ပါသည်-

(က) စာချုပ်(မူကြမ်း)တွင် စာချုပ်ဝင်များအပိုဒ်ကို ဖော်ပြရေးသားထားမှု မရှိ၍ စာချုပ်ပုံစံကျနမှုရှိစေရန်အတွက် မင်နီဖြင့် ရေးသားပေးလိုက်ပါသည်။ ဌာနလိုအပ်ချက်နှင့်ကိုက်ညီမှုရှိစေရန် ပြန်လည်စိစစ်သင့်ပါသည်၊

လျှို့ဝှက်

M-017/E/ UHZW/ Aung Htut Myat Co., Ltd (27-2-2015)

(ခ) စာချုပ်(မူကြမ်း)တွင် ယခုပြင်ဆင်ချက်စာချုပ်ချုပ်ဆိုရခြင်း၏ ရည်ရွယ်ချက်၊ မူလစာချုပ်ချုပ်ဆိုခဲ့သည့်နေ့ရက်နှင့် မူလစာချုပ်ပါမည်သည့်စည်းကမ်းချက်အပိုဒ်အရ ပြင်ဆင်လိုကြောင်း စသည်ဖြင့် အလားတူပြင်ဆင်ချက်စာချုပ်များတွင် ဖော်ပြလေ့ရှိသည့်အတိုင်း ရည်ရွယ်ချက်စာပိုဒ်ကို ထည့်သွင်းဖော်ပြရန် လိုအပ်ပါသည်၊

(ဂ) စာချုပ်(မူကြမ်း) အပိုဒ် ၁ ပါ " ----------- ပထမအကြိမ် ပြင်ဆင်ချက်သဘောတူစာချုပ်ဖြစ်ပြီး မူလစာချုပ်၏ တစ်စိတ်တစ်ဒေသဖြစ်စေရမည်" ဟု ဖော်ပြစည်းကမ်းချက်အား ယခုပြင်ဆင်ချက်စာချုပ်(မူကြမ်း) အပိုဒ် ၈ အဖြစ် ပြောင်းရွှေ့ဖော်ပြသင့်ပါသည်၊

(ဃ) စာချုပ်(မူကြမ်း) အပိုဒ် ၄ ပါ မူလစာချုပ်၏ "ငှားရမ်းခနှုန်းထား" ခေါင်းစဉ်အောက်ရှိ အပိုဒ် ၁၃ အား ပယ်ဖျက်၍ အစားထိုးပြင်ဆင်မည့် "ငှားရမ်းထားသည့် စက်ရုံမြေဧရိယာအတွင်း -------- စက်မှုဝန်ကြီးဌာန၊ စီမံခန့်ခွဲရေးကော်မတီအစည်းအဝေး၏ခွင့်ပြုချက်ရရှိပြီးမှသာ ဆောက်လုပ်ရမည်------" ဟုဖော်ပြထားပါသည်။ ထို့ပြင် စာချုပ်(မူကြမ်း)အပိုဒ် ၅ ပါ မူလစာချုပ်၏ "အငှားချထားခြင်းခံရသူ၏ တာဝန်ဝတ္တရားများ" ခေါင်းစဉ်အောက်ရှိအပိုဒ် ၁၅(ဈ)အားပယ်ဖျက်၍ အစားထိုးပြင်ဆင်မည့် စည်းကမ်းချက်၌ "-------အဆောက်အအုံသစ်ဆောက်လုပ်ခြင်းတို့ကို "အငှားချထားသူ" ၏ သဘောတူညီချက်ရယူပြီးမှသာ ဆောင်ရွက်ခွင့်ရှိသည် ------" ဟုဖော်ပြထားရာ စည်းကမ်းချက်အချင်းချင်းကိုက်မညီမှု မရှိဟု ယူဆသောကြောင့် ဌာနမှ ပြန်လည်စိစစ်ရန်လိုအပ်ပါသည်၊

(င) စာချုပ်(မူကြမ်း)ပါ ကွက်လပ်များကို စာချုပ်ချုပ်ဆိုချိန်၌ ပြည့်စုံစွာ ဖော်ပြထားပြီးဖြစ်ရန် လိုအပ်ပါသည်၊

(စ) လိုအပ်သောနေရာအချို့တွင် မင်နီဖြင့် အနည်းငယ်ပြင်ဆင်ပေးလိုက်ပါသည်။

၄။ ဤပြင်ဆင်ချက်သဘောတူစာချုပ်(မူကြမ်း) ကို ပြည်ထောင်စုရှေ့နေချုပ်ဥပဒေနှင့် အညီ ဥပဒေကြောင်း အရသာ ဥပဒေအကြံဉာဏ်ပေးခြင်းဖြစ်ပါသည်။ ဥပဒေရေးရာမဟုတ်သည့် စီမံရေးရာ၊ ဘဏ္ဍာရေးရာ၊ ကျွမ်းကျင်မှုဆိုင်ရာကိစ္စရပ်များကို ဤရုံးအနေဖြင့်မှတ်ချက်ပေးရန်မရှိပါ ကြောင်းနှင့် ယင်းကိစ္စရပ်များနှင့်စပ်လျဉ်း၍ သက်ဆိုင်ရာကျွမ်းကျင်သူများနှင့် ဆွေးနွေးညှိနှိုင်း ဆောင်ရွက်ရန် အကြံပြု ပါသည်။

၅။ ဤစာချုပ်(မူကြမ်း) ကို လက်မှတ်ရေးထိုးချုပ်ဆိုပြီးပါက မှတ်တမ်းတင်ထားနိုင် ရန်အတွက် ဤရုံးသို့ စာချုပ်မိတ္တူ(၃)စောင်ပေးပို့ပါရန် မေတ္တာရပ်ခံအပ်ပါသည်။

၆။ ဤ အကြံပြုချက်ကို လျှို့ဝှက်အဆင့် သတ်မှတ်ဆောင်ရွက်ရန် ဖြစ်ပါသည်။

၆.၃.၂၀၁၅

ညွှန်ကြားရေးမှူးချုပ်( ကိုယ်စား )
( ဒေါက်တာသီသီမြင့်၊ ညွှန်ကြားရေးမှူး )

စက်မှုဝန်ကြီးဌာန

မိတ္တူ - ရုံးလက်ခံ/ မျှောစာတွဲ

**စက်မှုဝန်ကြီးဌာန**

**အမှတ်(၂)အကြီးစားစက်မှုလုပ်ငန်းနှင့်**

**အောင်ထက်မြက် ကုမ္ပဏီလီမိတက်**

**တို့ ချုပ်ဆိုသော**

**အမှတ်(၂၂)အကြီးစားစက်ရုံ(ဘီးလင်း)၏**

**မြေ၊ အဆောက်အအုံ၊ စက်ပစ္စည်းများကို ငှားရမ်းသည့်သဘောတူစာချုပ်**

ဤစာချုပ်ကို နေပြည်တော်တွင် ၂၀၁၄ ခုနှစ်၊ မတ်လ ရက်နေ့၌ ဦးဆောင်ညွှန်ကြားရေးမှူး ဦးခင်မောင်တင့် ကိုယ်စားပြုသော အမှတ်(၂)အကြီးစားစက်မှုလုပ်ငန်း၊ စက်မှုဝန်ကြီးဌာန၊ (နောင်တွင် **"အငှားချထားသူ"** ဟု ခေါ်တွင်စေပြီး ယင်းစကားရပ်၌ ၎င်းအားဆက်ခံသူနှင့် ဥပဒေအရ လွှဲအပ်ခြင်းခံရသူများ ပါဝင်သည်)က တစ်ဖက်

နှင့်

ဦးမောင်မောင်ဌေး( နိုင်ငံသားစိစစ်ရေးကတ်ပြားအမှတ်၊၁၂/ကတတ( နိုင်)၀၀၆၀၃၁) Director ကိုယ်စားပြုသော အမှတ်(၄၇)၊ ဘုရင့်နောင်လမ်းမကြီး၊ လှိုင်မြို့နယ်၊ ရန်ကုန်မြို့တွင် ရုံးခန်းဖွင့်လှစ်ထားသည့် **အောင်ထက်မြက်ကုမ္ပဏီလီမိတက်** (နောင်တွင် **"အငှားချထားခြင်းခံရသူ"**ဟု ခေါ်တွင်စေပြီး ယင်းစကားရပ်၌ ၎င်းအားဆက်ခံသူများ၊ တရားဝင်ကိုယ်စားလှယ်များနှင့် ဥပဒေအရလွှဲအပ်ခြင်းခံရသူများပါဝင်သည်)က အခြားတစ်ဖက်တို့သည် တစ်ဖက်ပါစည်းကမ်းချက် များကို သတ်မှတ်၍ နှစ်ဦးသဘောတူ ချုပ်ဆိုကြပါသည်-

မတ်လ

## ရည်ရွယ်ချက်

၁။ **"အငှားချထားသူ"**ပိုင်ဆိုင်သော မွန်ပြည်နယ်၊ ဘီးလင်းမြို့ရှိ အမှတ်(၂၂)အကြီးစားစက်ရုံ (ဘီးလင်း)ကို **"အငှားချထားခြင်းခံရသူ"**က နှစ် ၅၀ ငှားရမ်းပြီး တာယာနှင့်ရော်ဘာပစ္စည်း ထုတ်လုပ်မှု လုပ်ငန်းများအား ဆောင်ရွက်နိုင်ရန် ရည်ရွယ်လျက် ၂၀၁၄ ခုနှစ် နိုဝင်ဘာလ ၁ ရက် နေ့တွင် လက်မှတ်ရေးထိုးချုပ်ဆိုခဲ့သော အမှတ် (၂)အကြီးစားစက်မှုလုပ်ငန်းနှင့် အောင်ထက်မြက်ကုမ္ပဏီလီမိတက်တို့ ချုပ်ဆိုသော အမှတ် (၂၂) အကြီးစားစက်ရုံ (ဘီးလင်း)၏မြေ၊ အဆောက်အအုံ၊ စက်ပစ္စည်းများကို ငှားရမ်းသည့် သဘောတူစာချုပ်၏ "စာချုပ်ပြင်ဆင်ခြင်း" ခေါင်းစဉ်အောက်ရှိအပိုဒ် ၂၂ပါ စည်းကမ်းချက်အရ ပြင်ဆင်ချုပ်ဆိုခြင်း ဖြစ်သည်။

## အာမခံခြင်းနှင့် ကိုယ်စားပြုခြင်း

၂။ **"အငှားချထားသူ"**သည် (နောက်ဆက်တွဲ 'က' မှ 'င' အထိ) အသေးစိတ်ဖော်ပြထားသော စက်ရုံ၊ မြေ၊ အဆောက်အအုံနှင့် စက်ပစ္စည်းများကို တရားဝင်ပိုင်ဆိုင်သူဖြစ်ပြီး **"အငှားချထားခြင်းခံရသူ"**သည် စာချုပ်ရည်ရွယ်ချက်ပါ လုပ်ငန်းများကို အကောင်အထည်ဖော်ဆောင်ရွက်ရန် ငွေကြေး ပြည့်စုံပြီး စာချုပ်ပါလုပ်ငန်းကို လုပ်ကိုင်ခွင့်ရှိသူဖြစ်သည်။ စာချုပ်တွင် လက်မှတ်ရေးထိုးမည့်သူ များသည် ဤစာချုပ်တွင် လက်မှတ်ရေးထိုးရန် အခွင့်အာဏာရှိသူများဖြစ်ကြောင်းကို အသီးသီး အာမခံကြပါသည်။

## အငှားချထားမည့် ပစ္စည်းများ

၃။ အောက်ပါ အငှားချထားသူပိုင် စက်ရုံ၊ မြေ၊ အဆောက်အအုံများ၊ စက်ပစ္စည်းကိရိယာများ၊ အခြားပစ္စည်းများနှင့် မော်တော်ယာဉ်ယန္တရားများကို **"အငှားချထားခြင်းခံရသူ"**အား ငှားရမ်းမည် ဖြစ်ပါသည်-

(က) စက်ရုံအမည်နှင့်တည်နေရာ — မွန်ပြည်နယ်၊ ဘီးလင်းမြို့နှင့် ၄ မိုင်ခန့် အကွာ (ရန်ကုန်မြို့မှ ၁၂၂ မိုင် ၆ ဖာလုံ)

| | | |
|---|---|---|
| (ခ) | မြေဧရိယာ(ဧက) | စက်ရုံအကျယ်အဝန်း ၁၂၉.၇၉ ဧက မြေစာရင်း ဦးစီးဌာနမှ ရေးဆွဲထုတ်ပေး ထားသောမြေပုံကိုနောက်ဆက်တွဲ (က) ဖြင့် ဖော်ပြထားပါသည်။ |
| (ဂ) | အဆောက်အအုံများ | အဆောက်အအုံများစာရင်းကို နောက်ဆက်တွဲ(ခ)ဖြင့် ဖော်ပြထားပါသည်။ |
| (ဃ) | စက်ပစ္စည်းကိရိယာများ | စက်ပစ္စည်းကိရိယာများစာရင်းကို နောက်ဆက်တွဲ(ဂ)ဖြင့် ပူးတွဲဖော်ပြထား ပါသည်။ |
| (င) | အခြားပစ္စည်းများ | အခြားပစ္စည်းများစာရင်းကို နောက်ဆက်တွဲ(ဃ)ဖြင့် ပူးတွဲဖော်ပြ ထားပါသည်။ |
| (စ) | မော်တော်ယာဉ်ယန္တရားများ | မော်တော်ယာဉ်ယန္တရားများစာရင်းကို နောက်ဆက်တွဲ(င)ဖြင့် ပူးတွဲဖော်ပြ ထားပါသည်။ |

**စာချုပ်သက်တမ်း**

၄။ စာချုပ်သက်တမ်းမှာ ဤစာချုပ်အသက်ဝင်သောနေ့ ၂၀၁၄ ခုနှစ် နိုဝင်ဘာလ ၁ ရက်နေ့မှ ၂၀၆၄ ခုနှစ် အောက်တိုဘာလ ၃၀ ရက်နေ့အထိ နှစ် ၅၀ ဖြစ်ပြီး၊ ငှားရမ်းသက်တမ်းကုန်ဆုံးပြီးနောက် ဆက်လက်ငှားရမ်းလိုပါက စာချုပ်သက်တမ်းအား တစ်ကြိမ်လျှင် ၁၀ နှစ်ဖြင့် သက်တမ်းနှစ်ကြိမ် တိုးမြှင့်ငှားရမ်းနိုင်သည်။ **"အငှားချထားခြင်းခံရသူ"** သည် ငှားရမ်းခနှုန်းထားဖော်ပြလျက် အကျိုး အကြောင်းခိုင်လုံစွာဖြင့် စာချုပ်သက်တမ်းတိုးမြှင့်ပေးပါရန် **"အငှားချထားသူ"**ထံ စာချုပ်သက်တမ်း မကုန်ဆုံးမီ ၆ လ ကြိုတင်၍ စာဖြင့်တင်ပြရမည်။ **"အငှားချထားသူ"** က သဘောတူညီလျှင် စာချုပ် သက်တမ်းတိုးမြှင့်နိုင်သည်။

**ဆိုင်းငံ့ကာလသတ်မှတ်ခြင်း**

၅။ ပြင်ဆင်ချိန်ကာလ ၄ လအား ဆိုင်းငံ့ကာလအဖြစ် သတ်မှတ်ပြီး အဆိုပါကာလသည် စာချုပ်ချုပ်ဆိုသည့်နေ့မှစ၍ သတ်မှတ်ရမည်။ အဆိုပါကာလအတွင်း တာယာမိုလ်အသစ်နှင့်ဆက်စပ်ပစ္စည်းများဝယ်ယူခြင်း၊ ကုန်ကြမ်းပစ္စည်းစုဆောင်းခြင်း ဆောင်ရွက်နိုင်ရန်ဖြစ်သည်။ သို့ရာတွင် ဝန်ထမ်းလစာနှင့် အခြားကုန်ကျစရိတ်များကို **"အငှားချထားခြင်းခံရသူ"** မှ စာချုပ်ချုပ်ဆိုသည့်နေ့မှစ၍ ပေးချေဆောင်ရွက်ရပါမည်။

**"အငှားချထားခြင်းခံရသူ"မှ ရင်းနှီးမြှုပ်နှံရန် ရည်မှန်းချက်**

၆။ **"အငှားချထားခြင်းခံရသူ"**သည် အမေရိကန်ဒေါ်လာ ၂.၄၈၃၅ သန်း အပါအဝင် စုစုပေါင်းငွေကျပ် ၂၅၃၆.၅ သန်း ရင်းနှီးမြှုပ်နှံ၍ နိုင်ငံတကာအဆင့်မီ Radial Tyre များထုပ်လုပ်ပြီး ပြည်တွင်းဈေးကွက်သို့ ၈၀ ရာခိုင်နှုန်းနှင့် ပြည်ပသို့ ၂၀ ရာခိုင်နှုန်း ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းများ ဆောင်ရွက်သွားမည်။

**လွှဲပြောင်းပေးမည့်ဝန်ထမ်း**

၇။ လွှဲပြောင်းပေးမည့် ဝန်ထမ်းအင်အားမှာ အောက်ပါအတိုင်းဖြစ်ပြီး နောက်ဆက်တွဲ(စ)ဖြင့် ဖော်ပြအပ်ပါသည်-

| စဉ် | လစာနှုန်း(ကျပ်) | ဦးရေ |
|---|---|---|
| (က) | ၂၂၀၀၀၀-၂၀၀၀-၂၃၀၀၀၀ | ၁ |
| (ခ) | ၂၀၀၀၀၀-၂၀၀၀-၂၁၀၀၀၀ | ၁ |
| (ဂ) | ၁၈၀၀၀၀-၂၀၀၀-၁၉၀၀၀၀ | ၆ |
| (ဃ) | ၁၆၀၀၀၀-၂၀၀၀-၁၇၀၀၀၀ | ၁၂ |
| (င) | ၁၄၀၀၀၀-၂၀၀၀-၁၅၀၀၀၀ | ၉ |
| | **အရာထမ်းစုစုပေါင်း** | ၂၉ |

| စဉ် | လစာနှုန်း(ကျပ်) | ဦးရေ |
| --- | --- | --- |
| (စ) | ၁၀၅၀၀၀-၁၀၀၀-၁၁၀၀၀၀ | ၁၆၀ |
| (ဆ) | ၉၉၀၀၀-၁၀၀၀-၁၀၄၀၀၀ | ၅၂ |
| (ဇ) | ၉၃၀၀၀-၁၀၀၀-၉၈၀၀၀ | ၅၉ |
| (ဈ) | ၈၇၀၀၀-၁၀၀၀-၉၂၀၀၀ | ၄၂ |
| (ည) | ၈၁၀၀၀-၁၀၀၀-၈၆၀၀၀ | ၃၇ |
| (ဋ) | ၇၅၀၀၀-၁၀၀၀-၈၀၀၀၀ | ၇၀ |
| | **အမှုထမ်းစုစုပေါင်း** | ၄၂၀ |
| (ဌ) | နေ့စား | ၁ |
| | **ဝန်ထမ်းစုစုပေါင်း** | ၄၅၀ |

**ဝန်ထမ်းရေးရာကိစ္စရပ်များ**

၈။ ပြင်ပဝန်ထမ်းစည်းကမ်းချက်ဖြင့်လွှဲပြောင်းပေးမည့်ဝန်ထမ်းများနှင့်ပတ်သက်၍ **"အငှားချထားခြင်းခံရသူ"**မှ အောက်ပါ စည်းကမ်းချက် များနှင့်အညီ လိုက်နာဆောင်ရွက်ရမည်-

(က) စက်ရုံရှိပြင်ပဝန်ထမ်းစည်းကမ်းချက်ဖြင့် လွှဲပြောင်းပေးမည့်ဝန်ထမ်းများ၏ ဝန်ထမ်းလစာနှင့်ထောက်ပံ့ကြေးများကို စာချုပ်ချုပ်ဆိုပြီးသည့် အချိန်မှစ၍ လစဉ်လစာထုတ်ရက်တွင် ထုတ်ပေးရမည်။

(ခ) အကြောင်းတစ်စုံတစ်ရာကြောင့် နိုင်ငံတော်မှ လစာနှုန်းထားများပြောင်းလဲခဲ့လျှင် ပြောင်းလဲသည့် နှုန်းထားအတိုင်း ထုတ်ပေးရမည်။

(ဂ) အခါအားလျော်စွာ ရာထူးတိုးမြှင့်ခြင်း၊ နှစ်တိုးတိုးမြှင့်ခြင်းခံရသော ဝန်ထမ်းများအတွက် တိုးမြှင့်လစာနှင့် နှစ်တိုးကို ခံစားခွင့်ပြုရမည်။

(ဃ) **"အငှားချထားခြင်းခံရသူ"**သည် လက်ရှိတာဝန်ထမ်းဆောင်နေသော ဝန်ထမ်းများအားဆက်လက်တာဝန်ပေးခန့်အပ်ရမည်။

